## ရင်းနှီးမြှုပ်နှံမှုဌာနခွဲ-၄
## PAT ၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်မှု

| စဉ် | လုပ်ငန်းအမည် | အမျိုးအစား | PAT အကြိမ် နေ့စွဲ | ဆွေးနွေးချက်မှ ပြင်ဆင်ရန် လိုအပ်ချက် | ဆောင်ရွက် ပြီးစီးမှု | အလံအမှတ် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | Convalt Energy (Myanmar) Co., Ltd. | မန္တလေးတိုင်းဒေသကြီး နဘူးအိုင်နှင့် ဝမ်းတွင်းဒေသတို့တွင် (၁၅၀)မဂ္ဂါဝပ်စီရှိသော နေစွမ်းအင်သုံး ဓာတ်အားပေး စက်ရုံများ တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း | ၁၇/၂၀၁၆<br>၉-၅-၂၀၁၆ | -ပြည်ပမှတင်သွင်းမည့် စက်နှင့် စက်ပစ္စည်းစာရင်း ပြန်လည်စိစစ်တင်ပြရန်၊ | ပြင်ဆင်ပြီး | က |
| | | | | -ချေးငွေနှင့်ပတ်သက်၍ ချေးငွေစာချုပ်(မူကြမ်း)နှင့်အတူ အတိုးနှုန်းနှင့် ပြန်လည်ပေးဆပ်မည့် အစီအစဉ်တင်ပြရန်၊ | ပြင်ဆင်ပြီး | ခ |
| | | | | -ကုမ္ပဏီ၏ငွေကြေးဆိုင်ရာ ဘဏ်အထောက်အထားတင်ပြရန်၊ | ပြင်ဆင်ပြီး | ဂ |
| | | | | -လုပ်ငန်းနှင့်ပတ်သက်ပြီး စီးပွားရေးရာကော်မတီနှင့် ပြည်ထောင်စုအစိုးရအဖွဲ့ရုံးသို့တင်ပြခွင့်ပြုချက်ရရှိထားသည့် ဆုံးဖြတ်ချက်စာအားတင်ပြရန်။ | ပြင်ဆင်ပြီး | ဃ |

ကုမ္ပဏီအမည် - Convalt Energy (Myanmar) Co., Ltd.

လုပ်ငန်း - ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Convalt Energy (Myanmar) Co., Ltd. မှ မန္တလေးတိုင်းဒေသကြီး နဘူးအိုင်နှင့် ဝမ်းတွင်းဒေသတို့တွင် B.O.T စနစ်ဖြင့် (၁၅၀) မဂ္ဂါဝပ်စီရှိသော နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံများ တည်ဆောက်ပြီး လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက် သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | ကြာချိန် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၇-၄-၂၀၁၆ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁၁-၅-၂၀၁၆ | ၈-၉-၂၀၁၆ | ၁၂၀ ရက် |
| | (ခ) သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန | ကုမ္ပဏီမှ EIA အစီရင်ခံစာအား ရေးဆွဲတင်ပြပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှ အတည်ပြုပြီး ဖြစ်ပါသည်။ | | |
| | (ဂ) လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန | ၂၈-၇-၂၀၁၆ | ၁၂-၈-၂၀၁၆ | ၁၄ ရက် |
| | (ဃ) မြန်မာနိုင်ငံတော် ဗဟိုဘဏ် | ၂၈-၇-၂၀၁၆ | ၂၃-၈-၂၀၁၆ | ၂၆ ရက် |
| ၃ | PAT (၁၇/၂၀၁၆) သို့ တင်ပြခြင်း | ၉-၅-၂၀၁၆ | | |
| ၄ | PAT အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန် အကြောင်းကြားခြင်းပြန်ကြားခြင်း | ၉-၅-၂၀၁၆ | | |
| ၅ | လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနမှ PAT အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ အဆိုပြုချက်အား ပြန်လည်တင်ပြလာခြင်း | ၁၂-၈-၂၀၁၆ | | |
| ၆ | ကုမ္ပဏီမှPATအစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ အဆိုပြုချက်အား ပြန်လည်တင်ပြလာခြင်း | ၁၂-၈-၂၀၁၆ | | |
| ၇ | ကုမ္ပဏီမှ အဆိုပြုလွှာပေးပို့ခြင်း | ၁၂-၁၀-၂၀၁၆ | | |
| ၈ | **စုစုပေါင်းကြာမြင့်ရက်** | ၆၀ ရက် | | |

အကြောင်းအရာ။ ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Convalt Energy (Myanmar) Co., Ltd. မှ B.O.T စနစ်ဖြင့် မန္တလေးတိုင်းဒေသကြီး နဘူးအိုင်နှင့် ဝမ်းတွင်းဒေသတို့တွင် (၁၅၀) မဂ္ဂါဝပ်စီရှိသော နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံများ တည်ဆောက်ပြီး လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချ ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Convalt Energy (Myanmar) Co., Ltd.<br>Mr. Hariharan Achuthan |
| ၂။ | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု<br>- Convalt Mandalay Solar Pte. Ltd.<br>(စင်ကာပူနိုင်ငံ) ၁၀၀% |
| ၃။ | လုပ်ငန်းအမျိုးအစား | - B.O.T စနစ်ဖြင့် မန္တလေးတိုင်းဒေသကြီး နဘူးအိုင်နှင့် ဝမ်းတွင်းဒေသတို့တွင် (၁၅၀) မဂ္ဂါဝပ်စီရှိသော နေစွမ်းအင်သုံးဓာတ်အားပေးစက်ရုံများ တည်ဆောက်ပြီး လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၄။ | တည်နေရာနှင့် မြေအကျယ်အဝန်း | (က) မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ မြင်းခြံမြို့နယ်၊ ကျားတိုင်-ကန်နီ-ပင်လယ်ကျေးရွာအုပ်စု၊ အကွက်အမှတ် ၃၁၊ ၃၂၊ ၅၅-ခ၊ ၅၂-ခ၊ ၅၄-ခ ရှိ မြေဧရိယာ ၁၀၀၀ ဧကနှင့်<br>(ခ) မန္တလေးတိုင်းဒေသကြီး၊ မိတ္ထီလာခရိုင်၊ သာစည်မြို့နယ်၊ ဝမ်းသာ-ဝက်တိုး ကျေးရွာအုပ်စု၊ အကွက်အမှတ် ၁၆၂၆၊ ၁၆၂၇၊ ၁၆၂၉၊ ၁၆၃၀၊ ၁၆၃၁၊ ၁၆၃၂၊ ၁၆၃၃ ရှိ မြေ ၈၅၀ ဧက |
| | မြေပိုင်ရှင် | - မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့ |
| | မြေငှားရမ်းခ | (က) တစ်ဧကလျှင် တစ်နှစ် US$ ၁၀၀ နှုန်းဖြင့် ဧက ၁၀၀၀ အတွက် နှစ်စဉ်ငှားရမ်းခ US$ ၁၀၀,၀၀၀<br>(ခ) တစ်ဧကလျှင် တစ်နှစ် US$ ၁၀၀ နှုန်းဖြင့် ဧက ၈၅၀ အတွက် နှစ်စဉ်ငှားရမ်းခ US$ ၈၅,၀၀၀ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | **စုစုပေါင်း**<br>**US$(million)** |
| | ငွေသား | ၆.၀၀ |
| | စက်ပစ္စည်းကိရိယာ(ပြည်ပဝယ်) | ၄၇၄.၀၀ |
| | **စုစုပေါင်း** | **၄၈၀.၀၀** |
| ၆။ | ဝင်ငွေရရှိမှုအခြေအနေ(၆နှစ်မြောက်) | ထုတ်လုပ်မည့် လျှပ်စစ်ဓာတ်အား (kWh/year) ၅၉၉,၁၈၄,၀၀၀ ; ဈေးနှုန်း (US$/kWh) ၀.၁၃ ; ရရှိမည့်ဝင်ငွေ US$(million) ၇၇.၈၉၄ |

| | | | |
|---|---|---|---|
| ၇။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၁၀၀% | |
| ၈။ | လုပ်ငန်းသက်တမ်း | - ၃၀ နှစ် | |
| ၉။ | တည်ဆောက်ရေးကာလ | - ၃ နှစ် | |
| ၁၀။ | ဝန်ထမ်းအင်အား | **မိတ္ထီလာ** | **မြင်းခြံ** |
| | | - ၂၀၂ ဦး (ပြည်တွင်း) | - ၂၀၂ ဦး (ပြည်တွင်း) |
| | | အမြင့်ဆုံးလစာ-US$ ၂,၀၀၀ | အမြင့်ဆုံးလစာ-US$ ၂,၀၀၀ |
| | | အနိမ့်ဆုံးလစာ-US$ ၃၀၀ | အနိမ့်ဆုံးလစာ-US$ ၃၀၀ |
| | | - ၃၀ ဦး (ပြည်ပ) | - ၃၀ ဦး (ပြည်ပ) |
| | | အမြင့်ဆုံးလစာ-US$၈,၀၀၀ | အမြင့်ဆုံးလစာ-US$၈,၀၀၀ |
| | | အနိမ့်ဆုံးလစာ-US$ ၁,၂၀၀ | အနိမ့်ဆုံးလစာ- US$ ၁,၂၀၀ |
| ၁၁။ | (၆)နှစ်မြောက်တွင် | | |
| | ကုမ္ပဏီ၏ဝင်ငွေ | - US$ ၈၁.၇၈၉ သန်း | |
| | အသုံးစရိတ် | - US$ ၆၉.၃၅၉ သန်း | |
| | အသားတင်အမြတ် | - US$ ၁၂.၄၃၀ သန်း | |
| ၁၂။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် (၆)နှစ်မြောက် | | |
| | ဝင်ငွေခွန် | - US$ ၄.၁၄၃ သန်း | |
| | ကုန်သွယ်လုပ်ငန်းခွန် | - US$ ၃.၈၉၄ သန်း | |
| ၁၃။ | အရင်းကြေကာလ | - ၁၄ နှစ် ၁၀ လ | |
| | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၈.၁၃ % | |
| ၁၄။ | လျှပ်စစ်ဓာတ်အား (နှစ်စဉ်) | - ၃၀၀,၀၀၀ kWh | |
| ၁၅။ | CSR | - Corporate Social Responsibility (CSR) အား အသားတင်အမြတ်၏ ၂% ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Convalt Energy (Myanmar) Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | B.O.T စနစ်ဖြင့် (၁၅၀) မဂ္ဂါဝပ်စီရှိသော နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံများ တည်ဆောက်ပြီး လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | - | မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ မြင်းခြံမြို့နယ်၊ ကျားတိုင်-ကန်နီပင်လယ်ကျေးရွာအုပ်စု၊ အကွက်အမှတ် ၃၁၊ ၃၂၊ ၅၅-ခ၊ ၅၂-ခ၊ ၅၄-ခ ရှိ မြေဧရိယာ ၁၀၀၀ ဧက |
| | - | မန္တလေးတိုင်းဒေသကြီး၊ မိတ္ထီလာခရိုင်၊ သာစည်မြို့နယ်၊ ဝမ်းသာ-ဝက်တိုးကျေးရွာ အုပ်စု၊ အကွက်အမှတ် ၁၆၂၆၊ ၁၆၂၇၊ ၁၆၂၉၊ ၁၆၃၀၊ ၁၆၃၁၊ ၁၆၃၂၊ ၁၆၃၃ ရှိ မြေ ဧရိယာ ၈၅၀ ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | US$ ၄၈၀ သန်း |
| ဝန်ဆောင်မှုပေးမည့်စနစ် | - | ပြည်တွင်း ၁၀၀% |
| လုပ်ငန်းသက်တမ်း | - | ၃၀ နှစ် |
| အရင်းကြေကာလ | - | ၁၄ နှစ် ၁၀ လ |
| IRR | - | ၈.၁၃ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဥ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၀.၆၇ သန်း |
| ၃ | သွင်းကုန်ခွန်ကင်းလွတ်ခွင့် | ကျပ် ၅,၆၈၈.၀၀ သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ် ၃၀,၁၀၃.၂၀ သန်း | ကျပ် ၁၂၂,၀၆၂.၈၀ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | ကျပ် ၂၃,၃၇၀.၀၀ သန်း | ကျပ် ၄၆,၇၄၀.၀၀ သန်း |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၉,၈၄၀.၀၀ သန်း |
| ၇ | မြေငှားရမ်းခ | | ကျပ် ၃,၃၃၀.၀၀ သန်း |
| ၈ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | ကျပ် ၉၇၂.၀၀ သန်း<br>တစ်နှစ် ဝင်ငွေ ကျပ် ၄.၈ သန်း (ကျပ်လေးဆယ့်ရှစ်သိန်း) ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း ၂၇၄ ဦး |
| ၉ | CSR (၂%) | | ကျပ် ၉,၆၇၈.၀၄ သန်း |
| ၁၀ | အလုပ်အကိုင် အခွင့်အလမ်း | | အမြဲတမ်း ပြည်တွင်း ၄၀၄ ဦး<br>ပြည်တွင်းလုပ်သား၄၀၄ဦးအလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ အလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှု လျော့ချရေးကို အထောက်အကူပြုစေနိုင်ပါသည်။ |
| | | ကျပ် ၅၉,၁၆၄.၂၀ သန်း | ကျပ် ၁၉၂,၆၂၃.၅၁ သန်း |
| | | ၁ း ၃.၂၆ | |

ယန္တသတ်


ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်


စာအမှတ်၊ မရက- ၅(လ)/န-ဝဝဝ/ ၂၀၁၆( ၄၈၇ )

ရက်စွဲ၊ ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၁၈ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Convalt Energy (Myanmar) Co., Ltd. မှ မန္တလေးတိုင်းဒေသကြီး နဘူးအိုင်နှင့် ဝမ်းတွင်းဒေသတို့တွင် B.O.T စနစ်ဖြင့် (၁၅၀) မဂ္ဂါဝပ်စီရှိသော နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံများ တည်ဆောက်ပြီး လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

၁။ စင်ကာပူနိုင်ငံတွင် ဖွဲ့စည်းထားသော Convalt Mandalay Solar Pte. Ltd. မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Convalt Energy (Myanmar) Co., Ltd. တည်ထောင်ပြီး မန္တလေးတိုင်းဒေသကြီး အစိုးရပိုင် မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ မြင်းခြံမြို့နယ်၊ ကျားတိုင်-ကန်နီ-ပင်လယ်ကျေးရွာအုပ်စု၊ အကွက်အမှတ် ၃၁၊ ၃၂၊ ၅၅-ခ၊ ၅၂-ခ၊ ၅၄-ခ ရှိ မြေ ၁၀၀၀ ဧကနှင့် မန္တလေးတိုင်းဒေသကြီး၊ မိတ္ထီလာခရိုင်၊ သာစည်မြို့နယ်၊ ဝမ်းသာ-ဝက်တိုးကျေးရွာအုပ်စု၊ အကွက်အမှတ် ၁၆၂၆၊ ၁၆၂၇၊ ၁၆၂၉၊ ၁၆၃၀၊ ၁၆၃၁၊ ၁၆၃၂၊ ၁၆၃၃ ရှိ မြေ ၈၅၀ ဧကတို့တွင် BOT စနစ်ဖြင့် ၁၅၀ မဂ္ဂါဝပ်စီရှိသော နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံများ တည်ဆောက်ပြီး လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခွင့်ပြုပါရန် လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ် မေလ ၉ ရက်နေ့တွင် ကျင်းပခဲ့သည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၁၇/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၁၉ ရက်နေ့ ရက်စွဲပါစာဖြင့် တင်ပြရာတွင် ACO Investment Group LLC နှင့် Convalt Energy LLC တို့သည် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ၂၀၁၃ ခုနှစ် ဖေဖော်ဝါရီလ ၈ ရက်နေ့တွင် နားလည်မှုစာချွန်လွှာ(MOU)လက်မှတ်ရေးထိုးခဲ့ပြီးဖြစ်ပါသည်။ ပြည်ထောင်စုအစိုးရအဖွဲ့၏ ၂၀၁၄ ခုနှစ် ဇူလိုင်လ ၃၁ ရက် နေ့တွင် ကျင်းပသော အစည်းအဝေးအမှတ်စဉ် (၁၅/၂၀၁၄)၏ သဘောတူခွင့်ပြုချက်ဖြင့် ၂၀၁၄ ခုနှစ် ဩဂုတ်လ ၂၈ ရက်နေ့တွင် သဘောတူညီမှုစာချွန်လွှာ (MOA) ကို လက်မှတ်ရေးထိုးခဲ့ပြီးဖြစ်ပါသည်။

၃။ အဆိုပြုချက်နှင့်အတူ မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းနှင့် Convalt Energy (Myanmar) Co., Ltd. တို့ချုပ်ဆိုမည့် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့် ပူးတွဲထားသော

တန်သတ်

လျှပ်စစ်ဓာတ်အား ဝယ်ယူရေးစာချုပ် (Power Purchase Agreement-PPA) နှင့် Convalt Energy (Myanmar) Co., Ltd. နှင့် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့တို့ ချုပ်ဆိုထားသည့် မြေငှားစာချုပ်တို့ကို တင်ပြထားပါသည်။

၄။ လုပ်ငန်းစီမံကိန်း သက်တမ်းကာလမှာ ၃၀ နှစ်ဖြစ်ပြီး တည်ဆောက်မှုကာလမှာ ၃၆ လ ဖြစ်ပါသည်။

၅။ မန္တလေးတိုင်းဒေသကြီးအစိုးရနှင့် Convalt Energy (Myanmar) Co., Ltd. တို့ ချုပ်ဆိုထားသည့် မြေငှားစာချုပ် ၂ ရပ်အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်ပူးတွဲတင်ပြထားပါသည်။ အဆိုပါ သဘောထားမှတ်ချက်နှင့်အညီ မန္တလေးတိုင်း ဒေသကြီး အစိုးရနှင့် Convalt Energy (Myanmar) Co., Ltd. တို့အကြား မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံ ခရိုင်၊ နဘူးအိုင် ဒေသရှိ မြေဧရိယာ ၁၀၀၀ ဧကနှင့် မိတ္ထီလာခရိုင်၊ ဝမ်းတွင်းဒေသရှိ မြေဧရိယာ ၈၅၀ ဧကတို့အား ငှားရမ်းဆောင်ရွက်ခွင့်အတွက် ၂၀၁၆ ခုနှစ် မတ်လ ၈ ရက်နေ့တွင် မြေငှားစာချုပ်လက်မှတ်ရေးထိုးခဲ့ပြီး ယင်းသဘောတူစာချုပ်များပါ အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) ငှားရမ်းကာလသည် စတင်သည့် ကာလတွက်နှင့် ပြီးဆုံးသည့်နေ့စွဲပါဝင်ပြီး၊ ကုန်ဆုံးသည့်ကာလများအတွက် ဖြစ်ရမည်။ သို့သော် ပြီးဆုံးသည့်နေ့မှ အနှစ် သုံးဆယ် (၃၀) (ကနဦးကာလ)ကျသောနေ့မပါဝင်ပါ။ ငှားရမ်းကာလသည် ၁၅ (ဆယ့်ငါး)နှစ် အသီးသီးဖြစ်သော နောက်ထပ်ကာလ (တိုးမြှင့်ကာလအသီးသီး) နှစ်ခု အတွက် အလို အလျောက်တိုးမြှင့်ရမည်။စုစုပေါင်းငှားရမ်းကာလအနှစ် ခြောက်ဆယ် (၆၀) ဖြစ်ရမည်။ **(အပိုဒ် ၆.၁)**

(ခ) မြေငှားရမ်းခနှုန်းထားမှာ တစ်ဧကလျှင် တစ်နှစ်၊ အမေရိကန်ဒေါ်လာ ၁၀၀ နှုန်းဖြင့် စီမံကိန်းအတွက် လိုအပ်သော ဧက ၁၀၀၀ အတွက် နှစ်စဉ် ငှားရမ်းခ စုစုပေါင်း US$ ၁၀၀,၀၀၀ ကို ငှားရမ်းကာလအတွင်း နှစ်တိုင်း၏ ဇန်နဝါရီလ ၃၁ ရက် နေ့တွင် ပေးသွင်းရမည်။ **(အပိုဒ်၇)**(မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ နဘူးအိုင်ဒေသရှိ ဧက ၁၀၀၀ မြေနေရာ)

ငှားရမ်းခမှာ တစ်ဧကလျှင် တစ်နှစ်၊ အမေရိကန်ဒေါ်လာ ၁၀၀ နှုန်းဖြင့် စီမံကိန်းအတွက် လိုအပ်သော ဧက ၈၅၀ အတွက် ငှားရမ်းခ စုစုပေါင်း US $ ၈၅,၀၀၀ ကို ငှားရမ်းကာလအတွင်း နှစ်တိုင်း၏ ဇန်နဝါရီလ ၃၁ ရက်နေ့တွင် ပေးသွင်းရမည်။ **(အပိုဒ် ၇)** (မန္တလေးတိုင်းဒေသကြီး၊ မိတ္ထီလာခရိုင်၊ ဝမ်းတွင်းဒေသရှိ ဧက ၈၅၀ မြေနေရာ)

၆။ လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းနှင့် Convalt Energy (Myanmar) Co., Ltd. တို့ချုပ်ဆိုမည့် Power Purchase Agreement (နဘူးအိုင်ဒေသ) ပါ အဓိက အချက်များမှာ တစ်ဘက်ပါအတိုင်း ဖြစ်ပါသည်-

(က) စာချုပ်သက်တမ်း ကာလသည် အဆိုပြုလုပ်ငန်း ပထမအဆင့်၏ ထုတ်လုပ်မှု စတင်သောနေ့ရက်မှ ၃၀ နှစ် အထိဖြစ်ပါသည်။ **(အပိုဒ်-၂-၁)**

(ခ) စာချုပ်သက်တမ်း တိုးမြှင့်ခြင်းအတွက် နှစ်ဦးနှစ်ဘက် သဘောတူညီချက်အရတိုးမြှင့်နိုင်ပါသည်။ စာချုပ်သက်တမ်းကုန်ဆုံးပါကကုမ္ပဏီမှ စီမံကိန်းလုပ်ငန်းနေရာရှိ လုပ်ငန်းသုံးပစ္စည်းများအားလုံးကို ဖယ်ရှားပေးမည်ဖြစ်သည်။ စာချုပ်သက်တမ်းတိုးမြှင့်လိုပါက ကုမ္ပဏီနှင့် မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းအနေဖြင့် ၂၄ လ ကြိုတင်ညှိနှိုင်းရမည်။ **(အပိုဒ်-၂-၃)**

(ဂ) စာချုပ်သက်တမ်းအတွင်း ကုမ္ပဏီမှ ထွက်ရှိသည့် လျှပ်စစ်ဓာတ်အားကို မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းသို့ ရောင်းချရမည်။ **(အပိုဒ်-၅-၃-က)**

(ဃ) စာချုပ်သက်တမ်းကာလအတွင်း လျှပ်စစ်ဓာတ်အားခအနေဖြင့် တစ်ကီလိုဝပ်နာရီလျှင် အမေရိကန်ဒေါ်လာ ၀.၀၂၇၅ နှုန်းဖြင့် ချုပ်ဆိုသွားမည်ဖြစ်သည်။ **(အပိုဒ်-၆-၁)**

၇။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ ချေးငွေ US$ ၃၃၆ သန်းအပါအဝင် US$ ၄၈၀ သန်း ဖြစ်ပြီး ငွေသား US$ ၆ သန်းနှင့် စက်နှင့်စက်ပစ္စည်းတန်ဖိုး US$ ၄၇၄ သန်းတို့ ဖြစ်ပါသည်။ ချေးငွေ US$ ၃၃၆ သန်းကို တစ်နှစ်လျှင် အတိုးနှုန်း ၆.၅% ဖြင့် ၂၀ နှစ်အတွင်း ပေးဆပ်မည်ဖြစ်ပါသည်။

၈။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၄၀၄ ဦးနှင့် ပြည်ပဝန်ထမ်း ၆၀ ဦးခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၃၀၀ နှင့် အမြင့်ဆုံးလစာမှာ US$ ၂,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၁,၂၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၈,၀၀၀ ဖြစ်ပါသည်။

၉။ အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်သောလျှပ်စစ်ဓါတ်အားကို ဌာနသို့ ၁၀၀% ရောင်းချမည်ဖြစ်ပြီး ထုတ်လုပ်မှုမှာ ပုံမှန်နှစ် (၆) နှစ်မြောက်တွင် ကီလိုဝပ်နာရီသန်းပေါင်း ၅၉၉.၁၈၄ ဖြစ်ပြီး ရောင်းချမည့်စျေးနှုန်းမှာ တစ်ကီလိုဝပ်နာရီလျှင် US$၀.၀၂၇၅ ဖြစ်ပါသည်။

၁၀။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ၆ နှစ်မြောက်တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | | US$ (သန်း) |
|---|---|---|---|
| (က) | ဝင်ငွေ | - | ၈၁.၇၈၉ |
| (ခ) | အသုံးစရိတ် | - | ၆၉.၃၅၉ |
| (ဂ) | အသားတင်အမြတ် | - | ၁၂.၄၃၀ |

၁၁။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ၆ နှစ်မြောက်တွင် ရရှိမည့်အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် US$ ၄.၁၄၃ သန်း နှင့် ကုန်သွယ် လုပ်ငန်းခွန် US$ ၃.၈၉၄ သန်း ရရှိမည်

ဖြစ်ပါသည်။ လုပ်ငန်း၏အရင်းကြေကာလမှာ ၁၄ နှစ် ၁၀ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ ၈.၁၃% ဖြစ်ပါသည်။

၁၂။ ယင်းအဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများတောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

(၁) အဆိုပြုလုပ်ငန်း ဆောင်ရွက်မှုသည် မြို့ပြစီမံကိန်းများကို ထိခိုက်မှုမရှိပါကြောင်း။

(၂) မြင်းခြံမြို့နယ် မြေရေိယာ (၁၀၀၀)ဧကတွင် ကျေးရွာအုပ်စု (၄)အုပ်စု (ကျားတိုင်၊ ကန်နီ၊ ပင်လယ်၊ ပျော့ကျေးရွာအုပ်စု) အတွင်းကျရောက်သောကြောင့် ၎င်းကျေးရွာအုပ်စု ကျေးရွာသူ၊ ကျေးရွာ သားများအတွက် အလုပ်အကိုင် အခွင့်အလမ်းများ ရရှိနိုင်ပြီး ဒေသဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူဖြစ်နိုင်ကြောင်းနှင့် သာစည်မြို့နယ် မြေဧရိယာ (၈၅၀) ဧကတွင် ကျေးရွာအုပ်စု (၂)အုပ်စု (ဝက်တိုး၊ ဝမ်းသာကျေးရွာအုပ်စု) အတွင်း ကျရောက်ပြီး နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံတည်ဆောက်ဖွင့်လှစ်မည်ဖြစ်သောကြောင့် အလုပ်အကိုင်အခွင့်အလမ်းများရရှိလာနိုင်မည်ဖြစ်သည့်အပြင် လျှပ်စစ်မီးရရှိလာသည်နှင့်အမျှ အသေးစား၊ အလတ်စား စီးပွားရေး လုပ်ငန်းများ လုပ်ကိုင်လာနိုင်မည်ဖြစ်ကြောင်း။

(၃) ဒေသခံတောင်သူများ၏ စိုက်ပျိုးလုပ်ကိုင်နိုင်သည့် မြေနေရာမဟုတ်ခြင်း ဒေသခံများ အတွက် အလုပ်အကိုင် အခွင့်အလမ်းများ ရရှိနိုင်ခြင်းတို့ကြောင့် ဒေသခံများ၏ လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်မှု ရှိကြောင်း။

(၄) အဆိုပြုမြေနေရာများသည် ရေခက်ခဲမှုရှိခြင်း၊ စိုက်ပျိုးမြေအဖြစ် အသုံးပြုရန် အကျိုးဖြစ်ထွန်းမှုမရှိခြင်းတို့ကြောင့် နေစွမ်းအင်သုံးဓာတ်အားပေးစက်ရုံ တည်ဆောက်အသုံးပြုနိုင်သည့် မြေနေရာဖြစ်ကြောင်းနှင့် လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း အစီရင်ခံစာ စိစစ်သုံးသပ်ရေးအဖွဲ့မှ အတည်ပြုသဘောတူသည့် ESIA အစီရင်ခံစာပါ အချက်အလက်များအတိုင်း လိုက်နာ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားထားပါသည်။

(ခ) **သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန**

သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏သဘောထားမှတ်ချက်နှင့်အညီ ကုမ္ပဏီမှ (Environmental Impact Assessment - EIA) အစီ

ရင်ခံစာအား ရေးဆွဲတင်ပြပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနမှ အတည်ပြုပြီးဖြစ်ပါသည်။

(ဂ) **လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ဂ)**

အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ တစ်ဘက်ပါ ပူးတွဲအချက်များနှင့် စပ်လျဉ်း၍ ပြည့်စုံစွာ ပြန်လည်ပြုစု၍ထောက်ခံကြောင်း ၂၀၁၆ ခုနှစ် ဩဂုတ်လ ၁၂ ရက်နေ့ ရက်စွဲပါစာဖြင့် ပြန်လည်တင်ပြလာပါသည်-

(၁) ပြည်ပမှ တင်သွင်းမည့် စက်နှင့် စက်ပစ္စည်းစာရင်း

(၂) ချေးငွေစာချုပ် (မူကြမ်း)၊ အတိုးနှုန်းနှင့် ပြန်လည်ပေးဆပ်မည့် အစီအစဉ်

(၃) ကုမ္ပဏီ၏ ငွေကြေးဆိုင်ရာ ဘဏ်အထောက်အထား

(၄) ဓာတ်အား ဝယ်ယူရေးစာချုပ် ချုပ်ဆိုခြင်းအပေါ် စီးပွားရေးရာ ကော်မတီနှင့် ပြည်ထောင်စု အစိုးရအဖွဲ့ရုံး၏ ခွင့်ပြုချက်

(ဃ) မြန်မာနိုင်ငံတော်ဗဟိုဘဏ် **(နောက်ဆက်တွဲ-ဂ)**

(၁) ရင်းနှီးမြှုပ်နှံမှုစုစုပေါင်း အမေရိကန်ဒေါ်လာ၄၈၀သန်းတွင် ချေးငွေ အမေရိကန်ဒေါ်လာ ၃၃၆ သန်းရှိ၍ ရှယ်ယာရှင်များ၏ ထည့်ဝင်မှု အမေရိကန်ဒေါ်လာ ၁၄၄ သန်း ပါဝင်မည်ဖြစ်ရာ Debt to Equity Ratio မှာ 2.33:1 ဖြစ်၍ သင့်ပါကြောင်း။

(၂) ချေးငွေအပေါ်အတိုးနှုန်း (Applicable Rate) မှာ Acceptance Date မတိုင်မီတွင် LIBOR + 5.5% (p.a) နှင့် Acceptance Date စေ့သည့်နေ့နှင့် နောက်ပိုင်းကာလတွင် LIBOR + 3.5% (p.a) + swap/IRS အတွက် 2.5%(p.a) ထပ်ဆောင်းကောက်ခံမည်ဖြစ်၍ အတိုးနှုန်းမှာ LIBOR +6% (p.a) ဖြစ်ကြောင်း LIBOR Rate ကိုလည်း ၁ လ၊ ၃ လ၊ ၆ လ နှင့် ၁၂ လ တို့အတွက် အတိုးနှုန်းများအနက် မည်သည့်ကာလအတွက် အတိုးနှုန်းဖြစ်သည်ကိုဖော်ပြရန်လိုပါကြောင်း။

(၃) ချေးငွေပမာဏမှာ အမေရိကန်ဒေါ်လာ ၃၃၆ သန်း ဖြစ်ပြီး အတိုးနှုန်းနှင့် ချေးငွေအရင်းပြန်ဆပ်ခြင်းကို အမေရိကန်ဒေါ်လာဖြင့် ပြန်ဆပ်ရမည်ဖြစ်ရာ ငွေချေးယူ၍ ရင်းနှီးမြှုပ်နှံသူ Convalt Energy (Myanmar) Co., Ltd. သည် ချေးငွေ ပြန်ဆပ်ရန် လုံလောက်သော နိုင်ငံခြားငွေဖြင့် ဝင်ငွေရှိ/မရှိ သိရှိရန်လိုပါကြောင်း။

၁၃။ ငွေကြေးအထောက်အထားအဖြစ် Convalt Energy (Myanmar) Co., Ltd. အမည်ဖြင့် OCBC Bank (Myanmar) တွင် ၂၀၁၆ ခုနှစ် စက်တင်ဘာလ ၃၀ ရက်နေ့ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၁,၆၂၄.၈၈ ဖြင့်လည်းကောင်း၊ ကျပ်ငွေ ၁၀,၄၇၀,၅၀၀.၀၀ ဖြင့်လည်းကောင်း တင်ပြထားပါသည်။

၁၄။ Convalt Energy (Myanmar) Co., Ltd. မှ ဝန်ထမ်းများအတွက် သက်သာ ချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်မှုအစီအစဉ်နှင့် လူမှုရပ်ရွာအကျိုးပြုမှုအစီအစဉ် အဖြစ် Corporate Social Responsibility အဖြစ် လုပ်ငန်း၏ နှစ်စဉ်အသားတင် အမြတ်ငွေ၏ ၂ % ကို သုံးစွဲမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၅။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၆။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုချက်တွင် ပါဝင်သော မြေအသုံးချမှုနှင့်စပ်လျဉ်း၍ မြေငှားရမ်းခွင့်ရှိသူ မန္တလေးတိုင်း ဒေသကြီးအစိုးရအဖွဲ့မှ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန်ဖြစ်ပါသည်။

(ခ) ငှားရမ်းကာလသည် ကနဦး နှစ် ၃၀ ဖြစ်ပြီး သက်တမ်းတိုးကာလသည် ၁၅ နှစ် (နှစ်ကြိမ်)ဖြစ်ကြောင်း၊ စုစုပေါင်းငှားရမ်းကာလ နှစ်ခြောက်ဆယ် (၆၀) ဖြစ်ကြောင်း တင်ပြထားပါသည်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အခန်း (၁၄)၊ အပိုဒ် ၃၂ အရ သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်သာ တိုးမြှင့်ပေးနိုင်မည်ဖြစ်သဖြင့် မြေငှားစာချုပ် သက်တမ်းအား ကနဦး နှစ် (၄၀)နှင့် သက်တမ်းတိုး (၁၀)နှစ် နှစ်ကြိမ် ပြင်ဆင်ချုပ်ဆို တင်ပြရန် လိုပါသည်။

(ဂ) စီမံကိန်းပထမအဆင့်အဖြစ် နဘူးအိုင်(မြင်းခြံ)နှင့် ဝမ်းတွင်း (မိတ္ထီလာ)တို့တွင် ၁၀၀ မဂ္ဂါဝပ်စီနှင့် ဒုတိယအဆင့်အနေဖြင့် ၅၀ မဂ္ဂါဝပ်စီဖြင့် အဆင့် ၂ ဆင့်ခွဲ၍ တည်ဆောက်သွားမည်ဖြစ်ပါသည်။

(ဃ) အဆိုပါ နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံ ၂ ခုတို့မှ ထွက်ရှိမည့် ဓာတ်အားကို ဓာတ်အားစနစ်ဖြင့် ဆက်သွယ်နိုင်ရန်အတွက် အောက်ပါဓာတ်အားလိုင်း၂လိုင်း တည်ဆောက်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်-

(၁) နဘူး-မြင်းခြံသံမဏိစက်ရုံ ၂၃၀ ကေဗွီဓာတ်အားလိုင်း (၂၉) မိုင်

(၂) ဝမ်းတွင်း-သပြေဝ ၂၃၀ ကေဗွီ ဓာတ်အားလိုင်း (၃)မိုင်

(၃) လက်ရှိ ၂၃၀ ကေဗွီ ဓာတ်အားခွဲရုံများတွင် ဓာတ်အားလက်ခံရန်အဆင့် မြှင့်တင်ခြင်းလုပ်ငန်းများ

**ဆုံးဖြတ်ရန်အချက်**

၁၇။ သို့ဖြစ်ပါ၍ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Convalt Energy (Myanmar) Co., Ltd. တည်ထောင်ပြီး မန္တလေးတိုင်းဒေသကြီးအစိုးရပိုင် မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ မြင်းခြံမြို့နယ်၊ ကျွားတိုင်-ကန်မီ-ပင်လယ်ကျေးရွာအုပ်စု၊ အကွက်အမှတ် ၃၁၊ ၃၂၊ ၅၅-ခ၊

၅၂-ခ၊ ၅၄-ခရှိ မြေ ၁၀၀၀ ဧကနှင့် မန္တလေးတိုင်းဒေသကြီး၊ မိတ္ထီလာခရိုင်၊ သာစည်မြို့နယ်၊ ဝမ်းသာ-ဝက်တိုး ကျေးရွာအုပ်စု၊ အကွက်အမှတ် ၁၆၂၆၊ ၁၆၂၇၊ ၁၆၂၉၊ ၁၆၃၀၊ ၁၆၃၁၊ ၁၆၃၂၊ ၁၆၃၃ ရှိ မြေ ၈၅၀ ဧကတွင် BOT စနစ်ဖြင့် ၁၅၀ မဂ္ဂါဝပ်စီရှိသော နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံများ တည်ဆောက်ပြီး လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခွင့်ပြုပါရန် လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ - ဏ

M4-910
13.9.16

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
မန္တလေးမြို့

စာအမှတ်၊ ၂ / ၃ - ၆ / ၃၂ ဦး၆( ၁၅၅ )
ရက် စွဲ ၊ ၂၀၁၆ ခုနှစ်၊ စက်တင်ဘာလ ၈ ရက်



သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ ။ တိုင်းဒေသကြီးအစိုးရအဖွဲ့ သဘောထားပြန်ကြားခြင်း
ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၁. ၅ .၂၀၁၆) ရက်စွဲပါစာအမှတ်၊ ရကာ - ၅(လ) / န - ၀၀၁ / ၂၀၁၆( ၃၀၆)

၁။ Convalt Energy(Myanmar) Co. Ltd မှ မြင်းခြံခရိုင်၊ ကျားတိုင် - ကန်နီ - ပင်လယ် ကျေးရွာအုပ်စု၊ အကွက်အမှတ်( ၃၁၊ ၃၂၊ ၅၅ - ခ ၊ ၅၂ - ခ၊ ၅၄- ခ)ရှိ မြေဧရိယာ (၁၀၀၀)ဧကနှင့် သာစည်မြို့နယ် ဝမ်းသာ - ဝက်တိုးကျေးရွာအုပ်စု အကွက်အမှတ် (၁၆၂၆၊ ၁၆၂၇၊ ၁၆၂၉၊ ၁၆၃၀၊ ၁၆၃၁၊ ၁၆၃၂၊ ၁၆၃၃)ရှိ မြေဧရိယာ (၈၅၀)ဧကတို့တွင် (၁၅၀)မဂ္ဂါဝပ်စီရှိသော နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံ(၂)ရုံတည်ဆောက်၍ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်မည့် အပေါ် တိုင်းဒေသကြီးအစိုးရအဖွဲ့၏သဘောထား စိစစ်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့် မြေနေရာနှင့်ပတ်သက်၍ ကွင်းဆင်းစစ်ဆေး ဆောင်ရွက်ခဲ့ရာ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည် -

(က) **နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြ စီမံကိန်းကို ထိခိုက်ခြင်းရှိ/မရှိနှင့်ပတ်သက်၍ မြို့ပြစီမံကိန်းများကို ထိခိုက်မှုမရှိပါကြောင်း ၊**

(ခ) **မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူ ဖြစ်/ မဖြစ် နှင့်ပတ်သက်၍** မြင်းခြံမြို့နယ် မြေဧရိယာ (၁၀၀၀)ဧကတွင် ကျေးရွာအုပ်စု(၄)အုပ်စု (ကျားတိုင်၊ ကန်နီ၊ ပင်လယ်၊ ပျော့ ကျေးရွာအုပ်စု) အတွင်းကျရောက်သောကြောင့် ၄င်းကျေးရွာအုပ်စု ကျေးရွာသူ၊ ကျေးရွာသားများအတွက် အလုပ်အကိုင် အခွင့်အလမ်းများ ရရှိနိုင်ပြီး ဒေသဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူ ဖြစ်နိုင်ကြောင်းနှင့် သာစည်မြို့နယ် မြေဧရိယာ (၈၅၀)ဧကတွင် ကျေးရွာအုပ်စု(၂)အုပ်စု (ဝက်တိုး၊ ဝမ်းသာ ကျေးရွာအုပ်စု)အတွင်း ကျရောက်ပြီး နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံ တည်ဆောက် ဖွင့်လှစ်မည် ဖြစ်သောကြောင့် ဒေသခံပြည်သူများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိ

လာနိုင်မည်ဖြစ်သည့်အပြင် လျှပ်စစ်မီးရရှိလာသည့်နှင့်အမျှ အသေးစား၊ အလတ်စား စီးပွားရေးလုပ်ငန်းများ လုပ်ကိုင်လာနိုင်မည်ဖြစ်ကြောင်း၊

(ဂ) ဖော်ပြပါ မြေနေရာတွင် အဆိုပြု လုပ်ငန်း ဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိ/မရှိ နှင့်ပတ်သက်၍ ဒေသခံတောင်သူများ၏ စိုက်ပျိုးလုပ်ကိုင်နိုင်သည့် မြေနေရာ မဟုတ် ခြင်း ဒေသခံများအတွက် အလုပ်အကိုင် အခွင့်အလမ်းများ ရရှိနိုင်ခြင်း တို့ကြောင့် ဒေသခံများ၏ လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှု တို့အရ လက်ခံ နိုင်မှုရှိကြောင်း ၊

(ဃ) လုပ်ငန်း ဆောင်ရွက်နိုင်သည့် မြေနေရာ ဟုတ်/မဟုတ် နှင့်ပတ်သက်၍ အဆိုပြုမြေနေရာများသည် ရေခက်ခဲမှုရှိခြင်း၊ စိုက်ပျိုးမြေအဖြစ် အသုံးပြုရန် အကျိုး ဖြစ်ထွန်းမှုမရှိခြင်းတို့ကြောင့် နေစွမ်းအင်သုံး ဓါတ်အားပေးစက်ရုံ တည်ဆောက် အသုံးပြုနိုင်သည့် မြေနေရာဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ Convalt Energy (Myanmar) Co., Ltd မှ မြင်းခြံမြို့နယ်နှင့် သာစည်မြို့နယ်တို့တွင် (၁၅၀)မဂ္ဂါဝပ် စီရှိသော နေစွမ်းအင်သုံးဓာတ်အားပေး စက်ရုံ(၂) ရုံ တည်ဆောက်၍ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် လျှပ်စစ်ဓာတ်အားထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည့် ကိစ္စနှင့်ပတ်သက်ပြီး **လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းအစီရင်ခံစာ စိစစ်သုံးသပ်ရေးအဖွဲ့မှ အတည်ပြုသဘောတူသည့် ESIA အစီရင်ခံစာပါ အချက်အလက်များအတိုင်း လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

ဒေါက်တာအေးမြင့်မောင်
ဝန်ကြီးချုပ်

မိတ္တူကို

လုံ့လည်စာတွဲ ၊
ရုံးလက်ခံ ။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့
အဆိုပြုချက်စိစစ်ရေးအဖွဲ့

တယ်လီဖုန်းနံပါတ် - ၆၅၈၁၃၀ | စာအမှတ်၊ ရက- ၅(လ)/ န-၀၀၁/၂၀၁၆( ၁၁ )
ဖက်(စ်) - ၉၅-၁-၆၅၈၁၄၂ | ရက်စွဲ၊ ၂၀၁၆ ခုနှစ် မေလ ၁၈ ရက်

သို့

ပြည်ထောင်စုဝန်ကြီးရုံး
လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ။ ရခိုင်ပြည်နယ်ပြည် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Convalt Energy (Myanmar) Co., Ltd. မှ မန္တလေးတိုင်းဒေသကြီး နဘူးအိုင်နှင့် ဝမ်းတွင်းဒေသတို့တွင် (၃၀၀)မဂ္ဂါဝပ် နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

ရည်ညွှန်းချက် ။ လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၏ ၇-၄-၂၀၁၆ ရက်စွဲပါစာအမှတ်၊လျှပ်စစ်-၂ (မူဝါဒ-ACO)(၄၉၅၀)/၂၀၁၆

၁။ Convalt Energy (Myanmar) Co., Ltd. ၏ ရည်ညွှန်းပါစာဖြင့် လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်တင်ပြခြင်းကို ၂၀၁၆ ခုနှစ် မေလ ၉ ရက်နေ့တွင် ကျင်းပသည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၁၇/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်-

(က) ပြည်ပမှတင်သွင်းမည့် စက်နှင့်စက်ပစ္စည်းစာရင်း ပြန်လည်စိစစ်တင်ပြရန်၊
(ခ) ချေးငွေနှင့်ပတ်သက်၍ ချေးငွေစာချုပ်(မူကြမ်း)နှင့်အတူ အတိုးနှုန်းနှင့် ပြန်လည်ပေးဆပ်မည့်အစီအစဉ် တင်ပြရန်၊
(ဂ) ကုမ္ပဏီ၏ငွေကြေးဆိုင်ရာ ဘဏ်အထောက်အထားတင်ပြရန်၊
(ဃ) လုပ်ငန်းနှင့်ပတ်သက်ပြီး စီးပွားရေးရာကော်မတီနှင့် ပြည်ထောင်စုအစိုးရအဖွဲ့ရုံးသို့တင်ပြခွင့်ပြုချက်ရရှိထားသည့် ဆုံးဖြတ်ချက်စာအား တင်ပြရန်။

၂။ သို့ပါ၍ အထက်ပါ အစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ ဆောင်ရွက်ပြီး ပြန်လည်တင်ပြပေးပါရန် အကြောင်းကြားအပ်ပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(ဆန်းမြင့်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာန

ပူးတွဲ (၄

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်ထောင်စုအစိုးရအဖွဲ့

၄၂

၁၀.၃.၁၆

စာအမှတ်၊ ၂၅ / ၂၅၇ / အဖရ (၈/၂၀၁၆)။

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ်လ ၁၀ ရက်။

# အ မှာ စာ

အကြောင်းအရာ။ မန္တလေးတိုင်းဒေသကြီး၊ ဝမ်းတွင်းဒေသနှင့် နဘူးအိုင်ဒေသတို့တွင် Convalt Mandalay Solar Private Limited က တည်ဆောက်မည့် (၁၅၀)မဂ္ဂါဝပ် နေရောင်ခြည်စွမ်းအင်သုံးဓာတ်အားပေးစက်ရုံ(၂)ရုံမှထွက်ရှိသောဓာတ်အားကို ဝယ်ယူရန်ချုပ်ဆိုမည့် လျှပ်စစ်ဓာတ်အားဝယ်ယူမှု သဘောတူစာချုပ် (Power Purchase Agreement-PPA) လက်မှတ်ရေးထိုးရန်ကိစ္စကို "မူ" အားဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်း။

၁။ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၅ ရက် (ကြာသပတေး)နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၈/၂၀၁၆) မှတ်တမ်းကောက်နုတ်ချက်ကို ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကို ရရှိကြောင်းပြန်ကြားရန်နှင့် ဌာနဆိုင်ရာ အရေးယူဆောင်ရွက်ချက်ကိုလည်း ပြန်လည်အစီရင်ခံတင်ပြရန် ဖြစ်ပါသည်။

ဇော်သန်းသင်း

အတွင်းရေးမှူး

ပြည်ထောင်စုဝန်ကြီး

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

၂၅။ မန္တလေးတိုင်းဒေသကြီး၊ ဝမ်းတွင်းဒေသနှင့် နဘူးအိုင်ဒေသတို့တွင် Convalt Mandalay Solar Private Limited က တည်ဆောက်မည့် (၁၅၀)မဂ္ဂါဝပ် နေရောင်ခြည်စွမ်းအင်သုံးဓာတ်အားပေးစက်ရုံ(၂)ရုံမှ ထွက်ရှိသောဓာတ်အားကို ဝယ်ယူရန်ချုပ်ဆိုမည့် လျှပ်စစ်ဓာတ်အားဝယ်ယူမှု သဘောတူစာချုပ် (Power Purchase Agreement-PPA) လက်မှတ်ရေးထိုးရန်ကိစ္စကို "မူ" အားဖြင့်ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်း။

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၈ ရက်နေ့စွဲပါ၊ အမှာစာ အမှတ်၊ လျှပ်စစ်-၂ (မူဝါဒ-MEPE) (၅၃၁)/၂၀၁၆။ အမှာစာကို သဘောတူကြသည်။

ဆောင်ရွက်ရန်၊

လျှပ်စစ်စွမ်းအား။

ထိပ်တန်းလျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

နိုင်ငံတော်သမ္မတရုံး

၂၅

၁၇.၂.၁၆

စာအမှတ်၊ ၅၈ (၁၂) / ၇ / သမ္မတရုံး

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၆ ရက်

သို့

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

အကြောင်းအရာ။ Power Purchase Agreement- PPA စာချုပ်လက်မှတ်ရေးထိုးခွင့်ကိစ္စ

ရည် ညွှန်း ချက်။ ယင်း၏ ၈-၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ လျှပ်စစ်-၂ (မူဝါဒ-MEPE) (၁၉၁၀) / ၂၀၁၆

မန္တလေးတိုင်းဒေသကြီး၊ ဝမ်းတွင်းဒေသနှင့် နဘူးအိုင်ဒေသတို့ရှိ နေရောင်ခြည်စွမ်းအင်သုံး ဓာတ်အားပေးစက်ရုံမှ ထွက်ရှိသောဓာတ်အားကို ဝယ်ယူရန်အတွက် မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းနှင့် Convalt Mandalay Solar Private Limited တို့အကြား ချုပ်ဆိုမည့် Power Purchase Agreement- PPA စာချုပ်လက်မှတ်ရေးထိုးခွင့်ကို မူအားဖြင့် ခွင့်ပြုပေးနိုင်ပါရန် ရည်ညွှန်းစာဖြင့် တင်ပြလာခြင်းအား လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန် အကြောင်းကြားအပ်ပါသည်။

(signature)

ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

သမ္မတဦးစီးရုံး

ဒုတိယသမ္မတဦးစီးရုံးများ

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

သမ္မတရုံးဝန်ကြီးဌာန(၃)



\\Spdc\D\2016\Feb\Feb 16\58-12.Doc

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန**

စာအမှတ် ၊ လျှပ်စစ်-၂(မူဝါဒ-ACO)( ၈၅၈၀ )/၂၀၁၆

ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ၊ ဩဂုတ်လ ၁၂ ရက်

**သို့**

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **မန္တလေးတိုင်းဒေသကြီး၊ နဘူးအိုင်နှင့် ဝမ်းတွင်းဒေသတို့တွင် နေရောင်ခြည်စွမ်းအင်သုံး ဓာတ်အားပေးစက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခွင့်ပြုပါရန် တင်ပြခဲ့ခြင်းကိစ္စ**

ရည်ညွှန်းချက်။

(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ (၁၉-၂-၂၀၁၆) ရက်စွဲပါစာအမှတ်၊ လျှပ်စစ်-၂(မူဝါဒ-ACO) (၂၅၇၅)/၂၀၁၆

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၉-၃-၂၀၁၆) ရက်စွဲပါစာအမှတ်၊ ရက-၄/ န-ထွေ/ ၂၀၁၆ (၄၉၇)

(၃) လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၏ (၇-၄-၂၀၁၆) ရက်စွဲပါစာအမှတ်၊ လျှပ်စစ်-၂(မူဝါဒ-ACO) (၄၉၅၀)/၂၀၁၆

(၄) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၈-၅-၂၀၁၆) ရက်စွဲပါစာအမှတ်၊ ရက-၅(လ)/ န-၀၀၁/ ၂၀၁၆ (၃၁၈)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ အမေရိကန်နိုင်ငံအခြေစိုက် ACO Investment Group LLC နှင့် Convalt Energy LLC တို့သည် Convalt Energy (Myanmar) Co., Ltd. ကို ထူထောင်၍ မန္တလေးတိုင်းဒေသကြီး၊ နဘူးအိုင်နှင့် ဝမ်းတွင်းဒေသတို့တွင် နေရောင်ခြည်စွမ်းအင်သုံး ဓာတ်အားပေးစက်ရုံ တည်ဆောက်ပြီး လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် လုပ်ငန်းခွင့်ပြုမိန့် ချမှတ်ပေးနိုင်ပါရန်နှင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ပါရန် လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ရည်ညွှန်း(၁)ပါစာဖြင့် ထောက်ခံတင်ပြခဲ့ရာ လျှပ်စစ်ဓာတ်အားဝယ်ယူမှုစာချုပ်(မူကြမ်း)အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် တင်ပြပေးရန်၊ ချေးငွေစာချုပ်(မူကြမ်း)နှင့် ချေးငွေပြန်လည်ပေးဆပ်မည့် အစီအစဉ် (Repayment Schedule) တင်ပြပေးရန်နှင့် အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာများအတွက် မြေအထောက်အထား ခိုင်မာစွာ တင်ပြပေးရန် ရည်ညွှန်း(၂)ပါစာဖြင့် အကြောင်းကြားခဲ့ပါသည်။

၂။ အဆိုပြုချက်အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ပြန်လည်တင်ပြရန် အကြောင်းကြားလာသည့်အချက်များအား ပြည့်စုံစွာပြုစု၍ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနမှ **ရည်ညွှန်း (၃)** ပါစာဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဒုတိယအကြိမ် ထောက်ခံ တင်ပြခဲ့ပါသည်။ ထိုသို့ ထောက်ခံတင်ပြခဲ့ခြင်းနှင့်ပတ်သက်၍ အောက်ပါအချက်အလက်များအား ပြန်လည်တင်ပြရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ **ရည်ညွှန်း(၄)** ပါစာဖြင့် အကြောင်းကြားခဲ့ပါသည်-

(က) ပြည်ပမှ တင်သွင်းမည့် စက်နှင့် စက်ပစ္စည်းစာရင်း ပြန်လည်စိစစ်တင်ပြရန်၊

(ခ) ချေးငွေနှင့်ပတ်သက်၍ ချေးငွေစာချုပ် (မူကြမ်း) နှင့်အတူ အတိုးနှုန်းနှင့် ပြန်လည်ပေးဆပ်မည့် အစီအစဉ် တင်ပြရန်၊

(ဂ) ကုမ္ပဏီ၏ ငွေကြေးဆိုင်ရာ ဘဏ်အထောက်အထားတင်ပြရန်၊

(ဃ) လုပ်ငန်းနှင့်ပတ်သက်ပြီး စီးပွားရေးရာကော်မတီနှင့် ပြည်ထောင်စုအစိုးရအဖွဲ့ရုံးသို့ တင်ပြခွင့်ပြုချက် ရရှိထားသည့် ဆုံးဖြတ်ချက်စာအား တင်ပြရန်၊

၃။ သို့ဖြစ်ပါ၍ Convalt Energy (Myanmar) Co., Ltd. ကို ထူထောင်၍ မန္တလေးတိုင်းဒေသကြီး၊ နဘူးအိုင်နှင့် ဝမ်းတွင်းဒေသတို့တွင် နေရောင်ခြည်စွမ်းအင်သုံး ဓာတ်အားပေးစက်ရုံ တည်ဆောက်ပြီး လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် လုပ်ငန်းခွင့်ပြုမိန့် ချမှတ်ပေးနိုင်ပါရန်နှင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ပါရန် အထက်ဖော်ပြပါ လိုအပ်သော အချက်အလက်များအား ပြည့်စုံစွာ ပြန်လည်ပြုစု၍ ထောက်ခံတင်ပြအပ်ပါသည်။

ပူးတွဲလျက် - (၁) ပြည်ပမှ တင်သွင်းမည့် စက်နှင့် စက်ပစ္စည်းစာရင်း

(၂) ချေးငွေစာချုပ် (မူကြမ်း)၊ အတိုးနှုန်းနှင့် ပြန်လည်ပေးဆပ်မည့် အစီအစဉ်

(၃) ကုမ္ပဏီ၏ ငွေကြေးဆိုင်ရာ ဘဏ်အထောက်အထား

(၄) ဓာတ်အားဝယ်ယူရေးစာချုပ်ချုပ်ဆိုခြင်းအပေါ် စီးပွားရေးရာကော်မတီနှင့် ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ ခွင့်ပြုချက်

12/8/16

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)

(ထိန်လွင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

တင်ပြ/လက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန

စာအမှတ်၊ လျှပ်စစ်-၂(မူဝါဒ-ACO)( ၄၉၅၀ )/၂၀၁၆

ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဧပြီလ ၇ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **မန္တလေးတိုင်းဒေသကြီး၊ နဘူးအိုင်နှင့် ဝမ်းတွင်းဒေသတို့တွင် နေရောင်ခြည်စွမ်းအင်သုံး ဓာတ်အားပေးစက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခွင့်ပြုပါရန် တင်ပြခဲ့ခြင်းကိစ္စ**

ရည်ညွှန်းချက်။ (၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ (၁၉-၂-၂၀၁၆) ရက်စွဲပါစာအမှတ်၊ လျှပ်စစ်-၂(မူဝါဒ-ACO) (၂၅၇၅)/၂၀၁၆

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၉-၃-၂၀၁၆) ရက်စွဲပါစာအမှတ်၊ ရက-၄/ န-ထွေ/ ၂၀၁၆ (၄၉၇)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ အမေရိကန်နိုင်ငံအခြေစိုက် ACO Investment Group LLC နှင့် Convalt Energy LLC တို့သည် Convalt Energy (Myanmar) Co., Ltd. ကို ထူထောင်၍ မန္တလေးတိုင်းဒေသကြီး၊ နဘူးအိုင်နှင့် ဝမ်းတွင်းဒေသတို့တွင် နေရောင်ခြည်စွမ်းအင်သုံး ဓာတ်အားပေးစက်ရုံ တည်ဆောက်ပြီး လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် လုပ်ငန်းခွင့်ပြုမိန့် ချမှတ်ပေးနိုင်ပါရန်နှင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ပါရန် လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ **ရည်ညွှန်း(၁)**ပါစာဖြင့် ထောက်ခံတင်ပြခဲ့ခြင်းအပေါ် အောက်ပါအချက်အလက်များအား ပြည့်စုံစွာ ပြန်လည်တင်ပြပေးရန် **ရည်ညွှန်း(၂)**ပါစာဖြင့် အကြောင်းကြားလာပါသည်-

(က) လျှပ်စစ်ဓာတ်အားဝယ်ယူမှုစာချုပ်(မူကြမ်း)အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် တင်ပြပေးရန်၊

( ခ ) ချေးငွေစာချုပ်(မူကြမ်း)နှင့် ချေးငွေပြန်လည်ပေးဆပ်မည့် အစီအစဉ် (Repayment Schedule) တင်ပြပေးရန်၊

( ဂ )အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာများအတွက် မြေအထောက်အထား ခိုင်မာစွာ တင်ပြပေးရန်၊

၂။ သို့ဖြစ်ပါ၍ Convalt Energy (Myanmar) Co., Ltd. ကို ထူထောင်၍ မန္တလေးတိုင်းဒေသကြီး၊ နဘူးအိုင်နှင့် ဝမ်းတွင်းဒေသတို့တွင် နေရောင်ခြည်စွမ်းအင်သုံး ဓာတ်အားပေးစက်ရုံ တည်ဆောက်ပြီး လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် လုပ်ငန်းခွင့်ပြုမိန့် ချမှတ်ပေးနိုင်ပါရန်နှင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ပါရန် အထက်ဖော်ပြပါ လိုအပ်သော အချက်အလက်များအား ပြည့်စုံစွာ ပြန်လည်ပြုစု၍ ထောက်ခံတင်ပြအပ်ပါသည်။

ပူးတွဲလျက် - (က) လျှပ်စစ်ဓာတ်အားဝယ်ယူမှုစာချုပ် (မူကြမ်း) အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်များ

( ခ ) ချေးငွေစာချုပ် (မူကြမ်း) နှင့် ချေးငွေပြန်လည်ပေးဆပ်မည့် အစီအစဉ်

( ဂ ) အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာများအတွက် မြေအထောက်အထားများ

6/4/16

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(ထိန်လွင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

တင်ပြ/လက်ခံ

Myanmar Investment Commission

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

၁၂ / ၆
၃၀ . ၃ . ၁၆

တယ်လီဖုန်း-၀၁-၆၅၈၁၂၉
ဖက်(စ်)-၀၁-၆၅၈၁၃၇

စာအမှတ်၊ ရက- ၄ / န-ထွေ / ၂၀၁၆ ( ၄၉၇ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ် လ ၂၉ ရက်

သို့

ပြည်ထောင်စုဝန်ကြီးရုံး
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

အကြောင်းအရာ ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ACO Investment Group LLC နှင့် Convalt Energy LLC တို့သည် မန္တလေးတိုင်းဒေသကြီး နဘူးအိုင်နှင့် ဝမ်းတွင်းဒေသတို့တွင် (၃၀၀) မဂ္ဂါဝပ် နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ် ရောင်းချခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ ၁၉-၂-၂၀၁၆ ရက်စွဲပါစာအမှတ် လျှပ်စစ်-၂ (မူဝါဒ-ACO)(၂၅၇၅)/၂၀၁၆

၁။ အမေရိကန် နိုင်ငံအခြေစိုက် ACO Investment Group LLC နှင့် Convalt Energy LLC တို့သည် မန္တလေးတိုင်းဒေသကြီး မြင်းခြံခရိုင်၊ မြင်းခြံမြို့နယ်၊ ကျားတိုင်-ကန်နီ-ပင်လယ် ကျေးရွာအုပ်စု၊ အကွက်အမှတ် ၃၁၃၂၊ ၅၅-ခ၊၅၂-ခ၊ ၅၄-ခ ရှိမြေဧရိယာ ၁၀၀၀.၂၅ ဧကနှင့် မန္တလေးတိုင်းဒေသကြီး၊ မိတ္ထီလာခရိုင်၊ သာစည်မြို့နယ်၊ ဝမ်းသာ-ဝက်တိုး ကျေးရွာအုပ်စု၊ အကွက် အမှတ် ၁၆၂၆၊ ၁၆၂၇၊ ၁၆၂၉၊ ၁၆၃၀၊ ၁၆၃၁၊ ၁၆၃၂၊ ၁၆၃၃ ရှိမြေဧရိယာ ၈၅၀ ဧကတို့တွင် (၁၅၀) မဂ္ဂါဝပ်စီရှိသော နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံ(၂)ရုံ တည်ဆောက်၍ လျှပ်စစ် ဓာတ်အား ထုတ်လုပ်ရောင်းချခွင့်ပြုရန်အတွက် လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြု ချက် တင်ပြလာခြင်းပါသည်။

၂။ အဆိုပြုချက် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအချက်အလက်များ ပြည့်စုံစွာ တင်ပြ ပေးရန် စိစစ်တွေ့ရှိရပါသည်-

(က) လျှပ်စစ်ဓာတ်အား ဝယ်ယူမှုစာချုပ်(မူကြမ်း)အပေါ် ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် တင်ပြပေးရန်။

(ခ) ချေးငွေစာချုပ်(မူကြမ်း)နှင့် ချေးငွေပြန်လည်ပေးဆပ်မည့်အစီအစဉ် (Repayment Schedule ) တင်ပြပေးရန်။

(ဂ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မြေဧရိယာများအတွက် မြေအထောက်အထား ခိုင်မာစွာ တင်ပြပေးရန်။

၃။ သို့ဖြစ်ပါ၍ အထက်စာပိုဒ် (၂)ပါ လိုအပ်ချက်များ ပြည့်စုံစွာဖြင့် ပြန်လည် တင်ပြပေးနိုင်ပါရန် အသိပေး အကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်၊
လျှပ်စစ်စွမ်းအားဦးစီးဌာန
ACO Convalt Energy Myanmar Co., Ltd.
ရုံးလက်ခံ/မျှောစာတွဲ

**Notarial Translation**

Regional Governmental Body
(Emblem)

U THAN AUNG
YANGON
NOTARY PUBLIC

Confidential

(Emblem) **MANDALAY REGION GOVERNMENTAL BODY**
**MINISTRY OF ELECTRICITY AND INDUSTRY**
**MANDALAY**

(Round Seal)

Letter No. 2/3-6/22 Oo 6 (049)
Date : February, 2016.

**To,**

**CEO**
**ACO Investment Group Co., Ltd.**

Subject : **Sending the Opinion Remarks in advance upon the Land Lease Agreement (Draft) 2 Parts.**

So as to be able to accomplish in continuation as needed for the Opinion Remarks Return from the Union Attorney General's Office upon (2) Parts of Land Lease Agreement (Draft), that shall executed to lease (1000) acres in Nabu Eing Village, Myingyan Township, Myingyan District and (850) acres of Land Area within Wanthar Village, Wettoe Village Tract, Thazi Township, Meiktila District, Mandalay Region, between Mandalay Region Governmental Body and ACO Investment Group Co., Ltd., is sent in advance.

Attached - Opinion Remarks (1) Set.

Sd/- x x x
Kyaw Myint
Minister, Ministry of Electricity and Industry

Copy to: -

- Regional Governmental Body, Mandalay Region, Mandalay.
- Office Copy

Confidential

**AUTHENTICATED, true and correct English translation.**

**Notarial Translation**

Confidential

| | |
|---|---|
| Ministry of Electricity and Industry | |
| Letter No. | 001 |
| Date | 1-1-2016 |

**GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR**

**UNION ATTORNEY GENERAL'S OFFICE**

**NAY PYI TAW**

U THAN AUNG ★ YANGON ★ NOTARY PUBLIC

Letter No. 2(5) 3 - 243/Na Pa Ta (3121)

Date : 28th December, 2015.

Subject : **Matter of Request of Opinion Remarks upon (2) Parts of Land Lease Agreement (Draft).**

Reference : (1) Letter No. 9 (4) 1 / 5 (129), dated 7-12-2015, of Advocate General's Office, Mandalay Region.

(2) Letter No. 2/ 3-6/ 21 Oo 6 (553), dated 20-11-2015, of Ministry of Electricity and Industry, Mandalay Region Governmental Body.

(3) Letter No. 2/ 3-6/ 21 Oo (579), dated 30-10-2014, of Ministry of Electricity and Industry, Mandalay Region Governmental Body.

(4) Letter No. 9 (2) 1 / 4 (3459), dated 5-11-2014, of Advocate General's Office, Mandalay Region.

(5) Letter No. 3 - 169/ Na Pa Ta (1090), dated 18-12-2014, of Union Attorney General's Office.

1. As it was presented to Mandalay Region Advocate General's Office with Reference (2) Letter of Mandalay Region Governmental Body to give Opinion Remarks upon (2) Parts of Land Lease Agreement (Draft), that shall be executed to lease a Total of 2000 acres, with 1000 acres of Land Area in Thazi Township, Meikhtila District and Land Area (1000) acres in Nabu Eing Village, Myingyan District, between Mandalay Region Governmental

U THAN AUNG YANGON NOTARY PUBLIC

Body and Convalt Energy Myanmar Co., Ltd., it is the Matter presented to this Office with the Reference Letter (1) by the Mandalay Region Advocate General's Office.

2. Concerning the Land Lease Agreement (Draft) included in Reference (1), as it was presented to Mandalay Region Advocate General's Office, with Reference (3) Letter by the Mandalay Region Governmental Body and Mandalay Region Advocate General's Office presented in continuation to this Office with Reference (4) Letter. This Office scrutinized it and returned the Advice with Reference Letter (5).

3. In the Advice of this Office included in Reference Letter (5), under the Advice and Returned Information, that the Land Lease Agreements should be separately executed, as the Locations of Land Areas to be leased differ and it is the Matter presented back again with Reference Letter (1) and (2), after compiling the Land Lease Agreement (Draft) (2) Parts.

4. When the Additionally sent Agreements (Draft) (2) Sets were checked with Reference (1) and (2) and Agreement (Draft) included in Reference (5) returned and advised previously by this Office, it was found out, that apart from Added Provisions of Termination, No Addition/Statement of Provisions in Notice to Lender of the Project Company's Default for Remedies, it was compiled only in accordance with, what is included in Agreement (Draft) of Reference (5).

5. Even though Land Lease Agreement (2) Parts sent with Reference (1) Letter, differ in the Location of Land Lease Areas, the Agreement Execution Company is only the same Company and only (1) Type of Agreement Execution is compiled and therefore it is scrutinized in combination and advised for it.

6. Together with the Reference (1) Letter, Land Lease Agreement (Draft) (2) Parts are compiled in English/Myanmar Languages. In whereas (B) of Land Lease Agreement

U THAN AUNG
YANGON
NOTARY PUBLIC

(Draft) (2) Parts included in Reference (1), it was found out, that ACO Investment Group LLC (ACO) Company executed a MOU with Mandalay Region Governmental Body on 8-2-2013 and in the Verse of Agreement Members of MOU under the attached/included said MOU (Copy) in Agreement (Drafts), ACO Company is the Company situated in America. Therefore, by studying/scrutinizing from the Law Point of View upon Land Lease Agreement (Draft) (2) Parts, it is considered and advised as the following;

(a) In the Agreement Verse of the Agreement (Draft), it was stated, that Convalt Energy Myanmar shall be referred/called hereinafter as Project Company. But, in Whereas Verse (A) of Agreement (Draft), as it is stated, that the Project Company shall be incorporated/established with ACO Investment Group LLC (ACO) and (        ) it should be scrutinized by the Department for the Fixation/Statement.

(b) In whereas Verse (B) of Agreement (Draft), it is stated, that MOU was executed on 8-2-2013, to supply the Suitable Land for the Project Development and Accomplishment by the Department and ACO. But, as it is stated, that this Agreement (Draft) shall be executed by Convalt Energy as Agreement Member, it should be stated clearly in the Whereas Verse, what Sort of Connection lies between ACO and Convalt Energy Myanmar.

(c) Under Clause 14.11 in Term of Agreement Verse 6.2 of Agreement (Drafts), for Early Termination of Power Purchase Agreement (or) Early Expiration and

U THAN AUNG YANGON NOTARY PUBLIC

Early Expiration of Leased Period, it is stated Additional Notices shall not be needed and this Present Agreement shall be automatically terminated. As the Termination of the Agreement is stated by connecting with the Power Purchase Agreement, the Department should take care of it. Apart from it, even if the Title of the Verse is stated as, Term of Agreement, the Matter of Agreement Termination is only stated and as there is No Statement concerning the Agreement Period, it is needed to state it.

(d) In Termination, Verse 6.3 of Agreement (Drafts), as it is stated, that this Agreement must not be terminated, apart from Accomplishment according to Clause 6.2, it should be taken care by the Department.

(e) In the Last Sentence of Rent, Verse 7, Agreement (Drafts), it is stated, that the Lessee will have the opinion to develop an additional 12,500 acres at an annual rent of US$ 100 per acre. It should be scrutinized back by the Department, as it is assumed the Expression is "Lessor" instead of "Lessee".

(f) In Arbitration Verse 11, Agreement (Drafts), as it is stated, that the Arbitrations shall be settled with United Nations Commission on International Trade Law (UNCITRAL) Arbitration 2010 of Singapore, it should be negotiated with the Other Agreement Member to solve in Myanmar with UNCITRAL Rules. If No Negotiation can be made, it is to consider and decide within Own Administrative Principles by the Department.

(g) In Agreement (Drafts), as there is No Verse of Renegotiation, which is a Law Provision, the Slip is sticked in the Normally Stated Verses in Agreement.

(h) In Land Lease Agreements of Agreement (Drafts), as there are No Provisions of Re-entry to the Land and Retransfer of the Land, that are usually stated, the Verses in Similar Agreement, which are usually stated are sticked with slips. It should be scrutinized back, whether it conforms with the Need of the Department.

(i) In Agreement (Drafts), as Mineral Resources and Treasures Findings Provision is not included, it should be added and stated.

(j) In Verse 14.1 of Agreement (Drafts), as it is used with "Waiver of Sovereign Immunity", it should be used as, "Waiver of Immunity".

(k) In Verse 14.11 of Agreement (Drafts), if Cancellation of this Agreement, Expiration (or) Early Terminations are made, the Department should take care of the Remaining Provision Verses.

(l) In Official Language, Verse 14.12 of Agreement (Draft), as it is stated, that the Agreement shall be stated Both in English/Myanmar Languages, if it is needed by the Department, the (Final Draft) of Agreement (Draft) compiled

U THAN AUNG ★ YANGON ★ NOTARY PUBLIC

in English should be translated into Myanmar and it is stated, it can be sent for the Translation Scrutinization to Law Compilation Department, Attorney General's Office.

(m) Concerning the Provisions included in Agreement (Draft), it is informed back and advised, that the Proposed Verses 2 (c), (d), (e), (f), (g), (h), (i), (j), (k), (l), (n), (q), (t), (u) which are proposed with Reference (5) Letter are reapproved.

(n) In the Needed Places, it is amended/added with, by writing in Red Ink.

7. Under the Stamp Act, Law, Section (9), if the Revenue Tax Exemption (or) Relaxation is not yet received, the Stamp Revenue must be paid by the Land Lessee, according to Assessment under the Law.

8. The Agreement (Draft) (2) Parts are only advised under Law, according to the Law of the Attorney General's Office, the Expertise Matters of Administration, Finance, has to make No Remarks by this Office. It is advised to negotiate with the Concerning Experts in concern with those Matters.

9. Before the Execution of this Agreement, it is needed to legally establish the Convalt Energy Myanmar. Apart from it, whether that Company is the Legally Incorporated Company (or) not and whether it has Ability to accomplish the Businesses included in the Agreement (or) not, as well as whether it has Sufficient Financial Strength and whether

**Notarial Translation**

Confidential



the Individual, who shall sign in the Agreements has Legal Authorization, shall be needed to scrutinize in advance.

10. If the Agreement (Draft) (2) Parts are signed/executed, it is requested to send (3) Copies to this Office to keep as record.

11. It is to fix/accomplish this Advice as Confidential Level.

Sd/- x x x

(Kyaw San)

Director General (On Duty)

Sd/- Sd/-

**Mandalay Region Advocate General's Office**

Copy - Mandalay Region Governmental Body, Ministry of Electricity and Industry, Mandalay.

- Office Copy.
- Circulation File.

Confidential

**AUTHENTICATED, true and correct English translation.**

Doc No: 3854\16

- 8 FEB 2016

8/2/16

U THAN AUNG (B.A.,LL.B)
ADVOCATE & NOTARY PUBLIC
Room No. 203, 2nd Floor, No.563 MAC Tower
Merchant Street, Kyauktada Township.
Yangon, Myanmar. H.P : 095161364

လျှို့ဝှက်

**မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့**
**လျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီးဌာန**
**မန္တလေးမြို့**

စာအမှတ်၊ ၂/၃ - ၆/ ၂၂ ဦး၆(၀၄၉)
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ရက်

သို့

CEO
ACO Investment Group Co., Ltd

အကြောင်းအရာ ။ **မြေငှားရမ်းစာချုပ်(မူကြမ်း) (၂)ရပ်အပေါ် သဘောထားမှတ်ချက် ကြိုတင်ပေးပို့ခြင်း**

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ACO Investment Group Co., Ltd ၏ ကုမ္ပဏီခွဲဖြစ်သော Convalt Energy Myanmar(ကန့်သတ်စွမ်းအင်မြန်မာကုမ္ပဏီ)တို့အကြား မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ မြင်းခြံမြို့နယ်ရှိ နဘူးအိုင်ကျေးရွာတွင် မြေဧရိယာ ဧက(၁၀၀၀)နှင့် မိတ္ထီလာခရိုင်၊ သာစည်မြို့နယ်၊ ဝက်တိုးကျေးရွာအုပ်စု၊ ဝမ်းသာကျေးရွာအတွင်းရှိ မြေဧရိယာ ဧက(၈၅၀)တို့အား ငှားရမ်းရန် ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း) (၂)ရပ်အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ သဘောထားမှတ်ချက် ပြန်ကြားလာမှုအား လိုအပ်သလို ဆက်လက်ဆောင်ရွက်နိုင်ရန်အတွက် ကြိုတင်ပေးပို့အပ်ပါသည်။

ပူးတွဲပါ - သဘောထားမှတ်ချက်(၁)စုံ

ကျော်မြင့်
(ဝန်ကြီး၊ လျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီးဌာန)

မိတ္တူကို
- တိုင်းဒေသကြီးအစိုးရအဖွဲ့၊ မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့
- ရုံးလက်ခံ

လျှို့ဝှက်

ထ၀၁
၁.၁.၂၀၁၆

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**ပြည်ထောင်စုရှေ့နေချုပ်ရုံး**

**နေပြည်တော်**

စာအမှတ်၊ ၂(၅) ၃ - ၂၄၃ /နပတ(၁၃၂၁ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ၊ ဒီဇင်ဘာလ ၂၈ ရက်

အကြောင်းအရာ။ **မြေငှားစာချုပ်(မူကြမ်း) ၂ရပ် အပေါ်သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) မန္တလေးတိုင်းဒေသကြီးဥပဒေချုပ်ရုံး၏ ၇-၁၂-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၉ ( ၄ ) ၁ / ၅ ( ၁၂၉ )

(၂) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၊ လျှပ်စစ်နှင့် စက်မှုလက်မှုဝန်ကြီးဌာန၏ ၂၀-၁၁-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၂/ ၃-ဖ/ ၂၁ ဦး; ဖ (၅၅၃)

(၃) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၊ လျှပ်စစ်နှင့် စက်မှုလက်မှုဝန်ကြီးဌာန၏ ၃၀-၁၀-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၂/ ၃-ဖ/ ၂၁ ဦး (၅၇၉)

(၄) မန္တလေးတိုင်းဒေသကြီးဥပဒေချုပ်ရုံး၏ ၅-၁၁-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၉(၂) ၁/၄ (၃၄၅၉)

(၅) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ၁၈-၁၂-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၃-၁၆၉/ နပတ(၁၀၉၀)

၁။ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Convalt Energy Myanmar (ကန့်သတ်တာဝန်ရှိ) ... ကုမ္ပဏီ) တို့အကြား မိတ္ထီလာခရိုင်၊ သာစည်မြို့နယ်အတွင်း မြေဧရိယာ(၁၀၀၀)ဧက နှင့်မြင်းခြံခရိုင်၊ နဘူးအိုင်ကျေးရွာတွင် မြေဧရိယာဧက(၁၀၀၀) စုစုပေါင်းဧက(၂၀၀၀)ကို ငှားရမ်းရန်ချုပ်ဆိုမည့်မြေငှားစာချုပ် (မူကြမ်း) ၂ရပ် အပေါ်သဘောထားမှတ်ချက်ပေးပါရန် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ ရည်ညွှန်းချက်(၂)ပါစာဖြင့် မန္တလေးတိုင်းဒေသကြီးဥပဒေချုပ်ရုံးသို့

အကျိုးစီးပွားများကို တာဝန်ပေးခြင်း သို့မဟုတ် ဆောင်ရွက်ခြင်းပြုလုပ်နိုင်သည်။ သို့မဟုတ် ငွေချေးပေးသူများအားအကျိုးပြုသည့် အာမခံအကျိုးစီးပွားကို ဖန်တီးနိုင်သည်။

၁၀.၃ ငွေချေးပေးသူများနှင့်တိုက်ရိုက်သဘောတူညီချက်

အငှားချထားသူသည် ငွေချေးပေးသူကတောင်းဆိုလျှင်၊ ငွေချေးပေးသူများနှင့် သဘောရိုးဖြင့် ညှိနှိုင်းပြီး၊ စီမံကိန်းနှင့်အလားတူသောစီမံကိန်းများအတွက်ထုံးစံဖြစ်သောပုံစံဖြင့် တိုက်ရိုက်စာချုပ်နိုင်သည်။ ချွင်းချက်အားဖြင့် ယင်းကဲ့သို့တိုက်ရိုက်စာချုပ်သည် တတိယအဖွဲ့ဝင်အား ဤသဘောတူညီချက်အရ စီမံကိန်းကုမ္ပဏီ၏အခွင့်အရေးနှင့် အရေးပါခြားနားသည့်အခွင့်အရေးများကို မပေးရ။

၁၀.၄ နောက်တိုးအာမခံခြင်းများ

ငွေချေးပေးသူများကတောင်းဆိုနိုင်သည့်အတိုင်း ဤသဘောတူညီချက်အရ ယင်းပုဂ္ဂိုလ်များ၌ အခွင့်အရေးများ နှင့် အပိုဒ် ၁၀ ဖြင့် သုံးသပ်ထားသည့်အတိုင်း ဖန်တီးထားသော အာမခံနှင့်စပ်လျဉ်း၍၊ အငှားချထားသူက သိရှိပြီး စီမံကိန်းကုမ္ပဏီ၏တောင်းဆိုချက်အရ ယင်းကဲ့သို့ နောက်ထပ်သိရှိချက်များအားလုံးကို ငွေချေးပေးသူများ သို့မဟုတ် သူတို့၏တာဝန်ပေးသူများနှင့် ချုပ်ဆို၊ ပေးအပ်ရမည်။ အငှားချထားသူသည် ငွေချေးပေးသူများက သင့်တော်သည့် တောင်းဆိုသည့်သတင်းအချက်အလက်များကိုပေးရန် (ငွေချေးပေးသူများက သင့်တော်သည့် အတိုင်းတောင်းဆိုသည့်အစိုးရအဖွဲ့အစည်းများထံမှသတင်းအချက်အလက်များကိုရယူရာတွင် အကူအညီပေးရန်)၊ နှင့် စီမံကိန်းအတွက် ငွေကြေးထောက်ပံ့ခြင်းနှင့်ပတ်သက်ပြီး ငွေချေးပေးသူများနှင့် တွေ့ဆုံ၊ ညှိနှိုင်းဆောင်ရွက်ရန်၊ သင့်တော်သည့်အတိုင်းကြိုးပမ်းရမည်။

၁၁။ အနညာတစီရင်ဆုံးဖြတ်ခြင်း

(က) ဤသဘောတူညီချက်၏တည်ရှိမှု၊ တရားဝင်မှု သို့မဟုတ် ရပ်စဲမှုနှင့်ပတ်သက်သောပြဿနာ အပါအဝင်၊ ဤသဘောတူညီချက်မှ သို့မဟုတ် ယင်းနှင့်ပတ်သက်ပြီး ပေါ်ထွက်လာသော အငြင်းပွားမှုရှိသည့်အခါ၊ (အငြင်းပွားမှု)အဖွဲ့ဝင်များသည်အငြင်းပွားမှုကိုဖြေရှင်းချက် အတွက် သဘောရိုးဖြင့် ညှိနှိုင်းရန်အားထုတ်ရမည်။ ယင်းသို့ ဆောင်ရွက်ခြင်းမှာ မဖြစ်နိုင် သို့မဟုတ်

လက်တွေ့မကျမဖြစ်လျှင်၊အဖွဲ့ဝင်များသည်အငြင်းပွားမှု၏နောက်ဆုံးဖြေရှင်းချက်ကိုဆိုင်းငံ့ပြီး၊ ဤသဘောတူညီချက်အရ ဆက်လက်ဆောင်ရွက်ရမည်။

(ခ) အဖွဲ့ဝင်တစ်ဦးကအငြင်းပွားမှုကိုအသိပေးထုတ်ပြန်ပြီးနောက်ရက်ပေါင်း ၃၀ အတွင်း၊ အဖွဲ့ဝင်များသည်အငြင်းပွားမှုကိုငြိမ်းချမ်းစွာမဖြေရှင်းနိုင်လျှင်၊အငြင်းပွားမှုကိုနောက်ဆုံးလက်ရှိအာဏာသက်ဝင်နေသည့် 2010 အနညာတဆုံးဖြတ်ခြင်း၊ နိုင်ငံတကာကုန်သွယ်မှု ဥပဒေ အပေါ် ကုလသမဂ္ဂကော်မရှင် (UNCITRAL)နှင့်အညီ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံရှိ အနညာတစီရင်ဆုံးဖြတ်ခြင်းဖြင့် ရည်ညွှန်းဖြေရှင်းရမည်။ စည်းမျဉ်းများကို အပိုဒ် ၁၁ တွင်ရည်ညွှန်း ပေးထားပြီးဟုမှတ်ယူသည်။ အနညာတခုံရုံးတွင် ခုံသမာဓိလူကြီး သုံး (၃) ဦးပါရမည်။ အနညာတစီရင်ဆုံးဖြတ်သည့်ဘာသာစကားသည် အင်္ဂလိပ်ဘာသာစကားဖြစ်ရမည်။

(ဂ) ပေးအပ်သောအနညာတဆုံးဖြတ်ချက်သည်အဖွဲ့ဝင်များအပေါ် ချိနှောင်ပြီး၊နောက်ဆုံးအတည်ဖြစ်ရမည်။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံရှိတရားရုံးများအပါအဝင် ကန့်သတ်မထားဘဲ လုပ်ပိုင် ခွင့်ရှိသည့်စီရင်ဆုံးဖြတ်သောမည်သည့်တရားရုံးများတွင်မဆို အာဏာသက်ဝင်ရမည်။

(ဃ) အငှားချထားသူသည် ပြန်လည်ရုပ်သိမ်းမရဘဲ၊စွန့်လွှတ်ပြီး၊ မည်သည့်စီရင်ဆုံးဖြတ်သည့်ဥပဒေများအရ ယခု သို့မဟုတ် ယခုမှစပြီး အကျုံးဝင်လာမည့်၊ ယင်း သို့မဟုတ် ယင်း၏ပစ္စည်းအား ဆောင်ရွက်ခြင်း၊ အာဏာသက်ရောက်စေခြင်း သို့မဟုတ် ဂါရမ်းစွဲကပ်သည့်ပုံစံအားလုံးနှင့်တစ်ခုခုမှ တရားစွဲဆိုခြင်း နှင့်/သို့မဟုတ် ကင်းလွတ်ခွင့် မတောင်းဆိုရန်သဘောတူသည်။ အငှားချထားသူသည် ယင်းသို့စွန့်လွှတ်ခြင်းသည် ယင်းဥပဒေများအရ ခွင့်ပြုသော အတိုင်းအတာအပြည့်သက်ရောက်ရမည်ဖြစ်ကြောင်းကြေညာသည်။

(င) သံသယရှောင်ရှားရန်အတွက် အငှားချထားသူသည် ဤအပိုဒ် ၁၁ ရည်ရွယ်ချက်အတွက် စီမံကိန်းကုမ္ပဏီကစွဲဆိုသည့်မည်သည့်တရားရုံး၏ဆုံးဖြတ်စီရင်ခြင်းကိုမဆို ပြန်လည်ရုပ်သိမ်းမရဘဲတင်သွင်းသည်။မသင့်လျော်သောအစည်းအဝေးအခြေခံဖြင့်သို့မဟုတ်တစ်နည်းအားဖြင့် ကန့်ကွက်မှုမပြုလုပ်ရန် တာဝန်ယူသည်။

(စ) အနညာတခုံရုံးကပေးသည့်ဆုံးဖြတ်ချက်ကို အသိအမှတ်ပြု သို့မဟုတ် အာဏာသက်ရောက်စေရန် စီမံကိန်းကုမ္ပဏီက လျှောက်ထားပြီး ရက်ပေါင်း ခြောက်ဆယ် (၆၀) အတွင်း မြန်မာ

တရားရုံးများက အသိအမှတ်မပြု သို့မဟုတ် အာဏာမသက်ဝင်စေလျှင်၊ စီမံကိန်းကုမ္ပဏီသည် စီမံကိန်းကုမ္ပဏီက ဆုံးဖြတ်သည့်ငွေကို အမြတ်ဝေစုများ၊ အခွန်များ၊ ငှားရမ်းခများ ၊ ကောက်ခံငွေများ သို့မဟုတ် တနည်းအားဖြင့် ကန့်သတ်မထားဘဲ ပါဝင်သည့်၊ အငှားချထားသူအား ပေးရမည့် အခြားငွေမှ ခုနှိမ်နိုင်သည်။

၁၂။ ပျက်ကွက်မှုကိစ္စရပ်များ

၁၂.၁ အဖွဲ့ဝင်တစ်ဦးဦးက အောက်ပါ အရေးကြီးသောတာဝန်များကို ဆောင်ရွက်ရန် ပျက်ကွက်လျှင် ပျက်ကွက်မှုကိစ္စရပ်များ ဖြစ်ပေါ်သည်ဟုမှတ်ယူရမည်။

(၁) အခြားအဖွဲ့ဝင်က ယင်းကဲ့သို့ ပျက်ကွက် သို့မဟုတ် ချိုးဖောက်ကြောင်းစာဖြင့် အကြောင်းကြားစာလက်ခံရပြီးနောက် ရက်ပေါင်း ကိုးဆယ် (၉၀) အတွင်း ယင်းကဲ့သို့ ပျက်ကွက် သို့မဟုတ် ချိုးဖောက်မှုကို မကုစားခြင်း၊ သို့မဟုတ်

(၂) သင့်တော်သည့်အားထုတ်မှုသုံးပြီး ယင်းကဲ့သို့အကြောင်းကြာစာလက်ခံပြီးနောက် ရက်ပေါင်းကိုးဆယ် (၉၀) အတွင်း ယင်းကဲ့သို့ ပျက်ကွက် သို့မဟုတ် ချိုးဖောက်မှုကို မကုစားနိုင်လျှင်၊ ချိုးဖောက်သည့်အဖွဲ့ဝင်သည် ယင်း ရက်ပေါင်းကိုးဆယ် (၉၀) အတွင်းချိုးဖောက်မှုကုစားခြင်းကို မစတင်နိုင်ဘဲ၊ ယင်းကဲ့သို့ ပျက်ကွက်မှုသို့မဟုတ် အခြားချိုးဖောက်မှုကိုကုစားရန် ဆက်လက် သင့်တော်သောအားထုတ်မှုပြုနေသည်။

၁၂.၂ ပျက်ကွက်မှုအတွက်ကုစားခြင်းများ

အဖွဲ့ဝင်တစ်ဦးဦးကပျက်ကွက်သည့်ကိစ္စရပ်ဖြစ်ပေါ်သည့်အခါ၊ယင်းပျက်ကွက်သည့်ကိစ္စဆက်လက်ဖြစ်ပေါ်နေစဉ်၊ အခြားအဖွဲ့ဝင်သည် အောက်ပါတို့အပါအဝင် အပိုဒ် ၁၃.၁ တွင်ပါသော ပျက်စီးမှုအပေါ် ကန့်သတ်ချက်များအရကိစ္စရပ်အသီးသီးတွင်(ဤသဘောတူညီချက်ကိုရပ်စဲခြင်းမှတစ်ပါး) ကျင့်သုံးသောဥပဒေများအရ ရနိုင်သော အခွင့်အရေးများနှင့်ကုစားချက်များအားလုံးကို ရယူနိုင်သည်။

(၁) အမှန်တကယ်ပျက်စီးမှုကိုရယူသည့်အခွင့်အရေး သို့မဟုတ်

(၂) ပျက်ကွက်သည့်အဖွဲ့ဝင်က ပျက်ကွက်သည့်ကိစ္စရပ် သို့မဟုတ် ပျက်ကွက်သည့်ကိစ္စရပ်ဖြစ်နိုင်သည့် အလားအလာ သို့မဟုတ် ခြိမ်းခြောက်မှုကို ထိန်းချုပ်ပြီး၊ လမ်းညွှန်ပေးသည့်အခွင့်အရေး။

၁၃။ အဖွဲ့ဝင်များ၏ပေးရန်တာဝန်များ

၁၃.၁ ပေးရန်တာဝန်ကိုကန့်သတ်ခြင်း

(က) အပိုဒ် ၁၃.၂ အရလိုအပ်သည့်မှအပ၊သွယ်ဝိုက်နောက်ဆက်တွဲဖြစ်ပြီး၊ ဖြစ်ပျက်သည့်၊ ပြင်းထန်သော သို့မဟုတ် စံပြဖြစ်သည့်ပျက်စီးမှုများအတွက်စာချုပ်၊တရားမနစ်နာမှု၊အာမခံခြင်း၊ တင်းကျပ်သည့်ပေးရန်တာဝန် သို့မဟုတ် အခြားတရားဥပဒေသီအိုရီဖြင့် မည်သည့်အဖွဲ့ဝင်ကမှ အခြားအဖွဲ့ဝင်သို့ ပေးရန်တာဝန်မရှိစေရ။

(ခ) ဤသဘောတူညီချက်အရ သို့မဟုတ် ချိုးဖေါက်မှုမှတစ်ပါး၊မည်သည့်အဖွဲ့ဝင်ကမှ အခြားအဖွဲ့ဝင်သို့ ပေးရန်တာဝန်မရှိစေရ။ သို့သော်လည်းချွင်းချက်အားဖြင့်ဤပြဌာန်းချက်သည် အဖွဲ့ဝင်တစ်ဦးက အခြားသူအား ဤသဘောတူညီချက် သို့မဟုတ် ဤသဘောတူညီချက်နှင့် မသက်ဆိုင်သော သို့မဟုတ် ကျင့်သုံးသောဥပဒေများအရသတ်မှတ်ထားသည့်ဆောင်ရွက်ချက်နှင့် မပတ်သက်သောမည်သည့်အခွင့်အရေးကိုမျှ စွန့်လွှတ်ရန် မရည်ရွယ်ပါ။

၁၃.၂ နစ်နာကြေးပေးခြင်း

(က) ဤသဘောတူညီချက်ရှိတစ်နေရာတွင် အထူးပြဌာန်းထားသည့်အတိုင်းမှတစ်ပါး၊ အငှားချထားသူသည်စီမံကိန်းကုမ္ပဏီ၊ယင်းကခန့်ထားသည့်ဆောက်လုပ်ရေးကန်ထရိုက်တာများနှင့်ငွေချေးပေးသူများအားသူတို့ကိုယ်တိုင်နှင့် သူတို့၏အရာရှိများ၊ ဒါရိုက်တာများနှင့်ဝန်ထမ်းများ အသီးသီးအတွက် ယုံကြည်စွာအပ်နှံခံရသူအနေဖြင့်း နစ်နာကြေးပေးပြီးကာကွယ်ရမည်။ ယင်းတို့အသီးသီးအား ယခုနေ့နောက်ပိုင်း အမြဲတမ်းဤသဘောတူညီချက်နှင့်ဆက်စပ်ပြီးအငှားချထားသူ၏ပေါ့လျော့မှု၊ သို့မဟုတ် ရည်ရွယ်ဆောင်ရွက်ချက် သို့မဟုတ် ထိန်ချန်မှုကြောင့် ဖြစ်ပေါ်၊ ခံစား၊ သို့မဟုတ် ပေးရန် လိုအပ်သည့် တိုက်ရိုက်ဖြစ်စေ သွယ်ဝိုက်၍ဖြစ်စေကျရောက်သည့် တကိုယ်ရေထိခိုက် ဒဏ် ရာရခြင်း

သို့မဟုတ် သေဆုံးခြင်း သို့မဟုတ် ပစ္စည်းများဆုံးရှုံးခြင်းများကြောင့် မထိခိုက်အောင်ထားရှိရမည်။

(ခ) ဤသဘောတူညီချက်ရှိတစ်နေရာတွင် အထူးပြဋ္ဌာန်းထားသည့်အတိုင်းမှတစ်ပါး၊ စီမံကိန်းကုမ္ပဏီသည် အငှားချထားသူအား ယင်းကိုယ်တိုင်နှင့် သူတို့၏အရာရှိများ၊ ဒါရိုက်တာများနှင့် ဝန်ထမ်းများအသီးသီးအတွက်ယုံကြည်စွာအပ်နှံခံရသူအနေဖြင့်နစ်နာကြေးပေးပြီးကာကွယ်ရမည်။ ယင်းတို့အသီးသီးအား ယခုနေ့နောက်ပိုင်း အမြဲတမ်းဤသဘောတူညီချက်နှင့် ဆက်စပ်ပြီးစီမံကိန်းကုမ္ပဏီ၏ပေါ့လျော့မှု၊သို့မဟုတ်ရည်ရွယ်ဆောင်ရွက်ချက် သို့မဟုတ် ထိန်ချန်မှုကြောင့် ဖြစ်ပေါ်၊ ခံစား၊ သို့မဟုတ် ပေးရန် လိုအပ်သည့် တိုက်ရိုက်ဖြစ်စေ သွယ်ဝိုက်၍ဖြစ်စေ ကျရောက်သည့်တကိုယ်ရေထိခိုက်ဒဏ်ရာရခြင်းသို့မဟုတ်သေဆုံးခြင်းသို့မဟုတ် ပစ္စည်းများဆုံးရှုံးခြင်းများကြောင့် မထိခိုက်အောင်ထားရှိရမည်။

(ဂ) အဖွဲ့ဝင်များ၏ပူးတွဲ၍သော်လည်းကောင်း၊ သို့မဟုတ် တပြိုင်တည်းဖြစ်ပေါ်သောပေါ့ဆမှု သို့မဟုတ် ရည်ရွယ်ဆောင်ရွက်ချက်များ သို့မဟုတ် ထိန်ချန်မှုများကြောင့်ဒဏ်ရာ သို့မဟုတ် ပျက်စီးမှုကြုံရသည့်အခါ၊ အဖွဲ့ဝင်အသီးသီးသည် ဤနစ်နာကြေးပေးခြင်းအရ အဖွဲ့ဝင်များက သဘောတူသည့်အတိုင်း သို့မဟုတ် အပိုဒ် ၁၁ နှင့်အညီ ဆုံးဖြတ်သည့်အတိုင်း သို့မဟုတ် ဆုံးဖြတ်နိုင်သည့်တရားရုံးကဆုံးဖြတ်သည့်အတိုင်း၊ ယင်းတို့၏သက်ဆိုင်ရာ မှားယွင်းမှုဒီကရီ အလိုက်အချိုးကျပေးလျော်ရန်တာဝန်ရှိရမည်။

၁၄။ အထွေထွေ

၁၄.၁ ကင်းလွတ်ခွင့်ကိုစွန့်လွှတ်သူ

(က) အငှားချထားသူသည် ဤသဘောတူညီချက်ကိုချုပ်ဆို၊ ပေးပို့၊ ဆောင်ရွက်ခြင်းတွင် ပုဂ္ဂလိကနှင့်စီးပွားရေးဆိုင်ရာပြုမူချက်များပါကြောင်းကို ကန့်သတ်ချက်မရှိ၊ ပြန်လည်မရုတ်သိမ်းနိုင်ဘဲ သဘောတူသည်။ရှေ့ဆက်ဆောင်ရွက်ရာတွင် အငှားချထားသူသည် အောက်ပါတို့ကို ကန့်သတ်ချက်မရှိ၊ ပြန်လည်မရုတ်သိမ်းနိုင်ဘဲ သဘောတူသည်။

(၁) ဤသဘောတူညီချက်သို့မဟုတ်ဤသဘောတူညီချက်ကြောင့်ပေါ်ပေါက်လာသည်ဟုထင်မြင်သည့်ဆောင်ရွက်ချက်များနှင့်ပတ်သက်ပြီး တရားစီရင်ပိုင်ခွင့် သို့မဟုတ် အမှု

စစ်ဆေးသည့်နေရာတွင်ဆန့်ကျင်ပြီး၊ အမှုဆောင်ရွက်ချက်များရှိလျှင်၊ ယင်းကိုယ်တိုင်သော်လည်းကောင်း၊ယင်းကိုယ်စားသော်လည်းကောင်းယင်းအမှုဆောင်ရွက်ချက်များမှကင်းလွတ်ခွင့်တောင်းဆိုခြင်းမပြုပါ။

(၂) နောင်ခါ၊ ယင်းကဲ့သို့အမှုဆောင်ရွက်ချက်များနှင့်ပတ်သက်ပြီး တရားစီရင်ပိုင်ခွင့်အားကင်းလွတ်ခွင့်ရပိုင်ခွင့်ကို စွန့်လွှတ်သည်။ နှင့်

(၃) ငွေကြေးဆိုင်ရာ၊စီးပွားရေးရာ သို့မဟုတ် စက်မှုလုပ်ငန်းဆိုင်ရာဆောင်ရွက်ချက်များတွင်ရင်းနှီးမြှုပ်နှံထားသောသို့မဟုတ် ဘဏ်များတွင်ထားရှိသည့် ယင်း၏ပိုင်ဆိုင်မှုများနှင့်ပတ်သက်ပြီး၊ ဆန့်ကျင်ဆောင်ရွက်ခြင်း သို့မဟုတ် အာဏာတည်အောင် ဆောင်ရွက်ခြင်းများအပါအဝင် ကန့်သတ်မထားဘဲ၊ စီရင်ဆုံးဖြတ်ရာတွင် ယင်းကဲ့သို့အမှုဆောင်ရွက်ချက်ကို ဆုံးဖြတ်ချက် သို့မဟုတ် အနုညာတဆုံးဖြတ်ချက်ကို အာဏာတည်ခြင်း၊ ယင်းကဲ့သို့အမှုဆောင်ရွက်ခြင်းနှင့်ပတ်သက်ပြီး ဆင့်စာထုတ်ပြန် သို့မဟုတ် သက်သာခွင့်ပေးခြင်း၊ နှင့်ပတ်သက်ပြီး၊ ယေဘူယျအားဖြင့်သဘောတူသည်။

(ခ) အထက်ပါအပိုဒ်၁၄.၁(က)ရှိစွန့်လွှတ်သူသည်တားမြစ်သည့်နည်းဖြင့် အခြားစီရင်ဆုံးဖြတ်ခြင်း သို့မဟုတ် သီးခြားဆောင်ရွက်ရန်အမိန့် သို့မဟုတ် မည်သည့်ပစ္စည်းကိုမဆို သို့မဟုတ် အခြားယာယီ သို့မဟုတ် ကြားဖြတ်ကာကွယ်မှုများ နှင့် အများနှင့်သက်ဆိုင်သောအရေးယူမှု၏ရလဒ်အဖြစ် သို့မဟုတ်ဆောင်ရွက်ရာတွင်သက်ရောက်သည့်နည်းစဉ်အရဖြစ်သည့်ယင်း၏ပစ္စည်းများမည်သို့ဆိုစေပြန်လည်ရယူခြင်းအတွက်အငှားချထားသူအားစင်ကာပူတွင်ပေးထားသည့်သက်သာခွင့်ပါတိုးချဲ့ပါဝင်သည်။

၁၄.၂ ပြင်ဆင်ခြင်း

ဤသဘောတူညီချက်တွင် မပါဝင်သည့်အခြေအနေကြောင့် အခြေအနေတစ်ခုခုပေါ်ပေါက်ပြီး၊ ဤသဘောတူညီချက်ကိုပြင်ဆင်ရန်လိုအပ်သည့်အခါ၊ အဖွဲ့ဝင်များသည် နှစ်ဖက်လုံးလက်ခံနိုင်သော ဖြေရှင်းချက်ရရန် ဦးတည်ချက်ဖြင့် ညှိနှိုင်းရမည်။ ဤသဘောတူညီချက်ကို အဖွဲ့ဝင်များကြားစာဖြင့်သဘောတူချက်ပါမှသာ ပြင်ဆင်နိုင်သည်။

၁၄.၃ နို့တစ်စာများ

(က) ဤသဘောတူညီချက်တွင် တစ်နည်းအားဖြင့်ဖော်ပြထားသည်မှလွဲပြီး၊ နို့တစ်စာများ သို့မဟုတ် ဤသဘောတူညီချက်အရ ပေးပို့ သို့မဟုတ် ပြုလုပ်ရမည့်အခြား ဆက်သွယ် ချက်များ အားလုံးသည် စာဖြင့်ဖြစ်ရမည်။ အောက်တွင်ဖော်ပြထားသော သူများအားရည်ညွှန်းလိပ်စာ တပ်ရမည်။ လူကိုယ်တိုင်သော်လည်းကောင်း သို့မဟုတ် စာပို့စနစ်၊ မှတ်ပုံတင်စာ သို့မဟုတ် အသိအမှတ်ပြုပထမတန်းစာပို့ (အခြားနိုင်ငံသို့ပို့လျှင်၊ လေယာဉ်စာဖြင့်) သို့မဟုတ် ဖက်စ် ဖြင့်ပို့ခြင်း (မှတ်ပုံတင်စာ သို့မဟုတ် အသိအမှတ်ပြုပထမတန်းစာပို့ [(အခြားနိုင်ငံသို့ပို့လျှင်၊ လေယာဉ်စာဖြင့်) ဖြင့်ပို့လျှင်မိတ္တူတစ်စောင်နှင့် အတူ]တစ်ခုခုဖြင့်ပို့ရမည်။

(ခ) အဖွဲ့ဝင်များသို့ပေးပို့ရမည့်လိပ်စာများနှင့် သူတို့၏ဖက်စ်အမှတ်အသီးသီးသည်

(၁) အငှားချထားသူထံသို့ဖြစ်လျှင်

ရည်ညွှန်းချက်၊ [ ]

လိပ်စာ၊ [ ]

ဖက်စ် [ ]

(၂) စီမံကိန်းကုမ္ပဏီထံသို့ဖြစ်လျှင်

ရည်ညွှန်းချက်၊ [ ]

လိပ်စာ၊ [ ]

ဖက်စ် [ ]

(ဂ) အဖွဲ့ဝင်တစ်ဦးက အခြားအဖွဲ့ဝင်သို့ ပြုလုပ်သော နို့တစ် သို့မဟုတ် ဆက်သွယ်မှုသည် လူကိုယ်တိုင်သော်လည်းကောင်း သို့မဟုတ် ဆက်သားဖြင့်သော်လည်းကောင်းပေးပို့လျှင်၊ ထိုအဖွဲ့ဝင်၏လိပ်စာတွင်ထားခဲ့သည့်နေ့တွင်အခြားအဖွဲ့ဝင်ကလက်ခံရသည်ဟု မှတ်ယူရမည်။ သို့မဟုတ် မှတ်ပုံတင်စာ သို့မဟုတ် အသိအမှတ်ပြုပထမတန်းစာပို့စနစ်ဖြင့်ပို့လျှင် သက်ဆိုင်ရာစာတိုက်ဝန်ဆောင်မှုဖြင့်ပို့ပြီးကြောင်းအတည်ပြုသည့်နေ့တွင်လက်ခံရသည်၊ သို့မဟုတ် ဖက်စ်ဖြင့်ပို့လျှင် ယင်းနေ့တွင်ပင်လက်ခံရကြောင်း အတည်ပြုချက်ရသည့်အခါ

ဖြစ်သည်။ လက်ခံရသောနေ့သည်အလုပ်လုပ်သောနေ့ ရှိသာမန်အလုပ်လုပ်သော အချိန်ဖြစ်ပြီး၊ တနည်းအားဖြင့် နောက်နေ့အလုပ်လုပ်သောနေ့ဖြစ်သည်။

(ဃ) အဖွဲ့ဝင်တစ်ဦးသည် အခြားအဖွဲ့ဝင်အား ယင်း၏အမည်၊ သက်ဆိုင်ရာလိပ်စာ၊ လိပ်စာ သို့မဟုတ် ဖက်စ်အမှတ်ပြောင်းလဲခြင်းကို အသိပေးနိုင်သည်။ ချွင်းချက်အားဖြင့် ယင်းကဲ့သို့ အသိပေးခြင်း သည် အောက်ပါနေ့များတွင်သာအကျိုးသက်ရောက်ရမည်။

(၁) ပြောင်းလဲသည့်နေ့စွဲအတိုင်း အသိပေးအကြောင်းကြားစာတွင်ဖော်ပြထားသောနေ့၊ သို့မဟုတ်

(၂) နေ့စွဲကိုဖော်ပြမထားလျှင် သို့မဟုတ် ဖော်ပြထားသောနေ့သည် နို့တစ်ပေးပို့သည့်နေ့နောက်ပိုင်း အလုပ်လုပ်ရက် ငါး (၅) ရက်ထက်နည်းလျှင်။ ပြောင်းလဲကြောင်း နို့တစ်ပို့ပေးပြီးနောက်၊ ကျရောက်သောအလုပ်လုပ်ရက် ငါး (၅) ရက်၊

၁၄.၄ လွှမ်းမိုးသည့်ဥပဒေ

ဤသဘောတူညီချက်ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံဥပဒေများနှင့်အညီ လွှမ်းမိုးတည်ဆောက်ရမည်။

၁၄.၅ သဘောတူညီချက်တစ်ခုလုံး

ပါဝင်သောအကြောင်းအရာများနှင့်ပတ်သက်ပြီး အဖွဲ့ဝင်များ၏သဘောတူညီချက် အပြည့်အစုံသည် ဤသဘောတူညီချက်နှင့်ပူးတွဲပါသောဇယားများတွင် ပါဝင်သည်။

၁၄.၆ မူရင်းခွဲများ

ဤသဘောတူညီချက်ကိုမူရင်း (၃) စောင်ပြုလုပ်သည်။ လက်မှတ်ထိုးထားသောမိတ္တူ အသီးသီးကိုဤသဘောတူညီချက်၏မူရင်းတစ်ခုအဖြစ်သတ်မှတ်ရမည်။ သို့သော် ယင်းမိတ္တူများအားလုံး ကို စုပေါင်းပြီး တစ်ခုနှင့်တူညီသောစာချုပ်စာတမ်းဖြစ်ရမည်။

၁၄.၇ လျှို့ဝှက်ထားရှိခြင်း

(က) အဖွဲ့ဝင်အသီးသီးသည် လက်ခံရသော သို့မဟုတ် ဤသဘောတူညီချက်ကို ချုပ်ဆိုခြင်း သို့မဟုတ် ဆောင်ရွက်ရာမှရလဒ်အဖြစ်ရလာသော သတင်းအချက်အလက်များအားလုံးကို

လျှို့ဝှက်ထားရှိရမည်။ ဤသဘောတူညီချက်နှင့်ပတ်သက်ပြီး၊ ညှိနှိုင်း၊ ပြဌာန်း သို့မဟုတ် ဆောင်ရွက်ခြင်းနှင့်ပတ်သက်သော သို့မဟုတ် အခြားအဖွဲ့ဝင်များ သို့မဟုတ် သူတို့၏လုပ်ငန်းအသီးသီး သို့မဟုတ် လုပ်ဆောင်ချက်များကို တင်းကျပ်စွာလျှို့ဝှက်ထားပြီး၊ ထုတ်ဖော်မပြောရ။

(ခ) အဖွဲ့ဝင်သည် အောက်ပါကိစ္စရပ်တို့တွင် လျှို့ဝှက်သတင်းအချက်အလက်ကို ဖွင့်ဟနိုင်သည်၊

(၁) အဖွဲ့ဝင်က ဖွင့်ဟပြောရန် ဥပဒေအရလိုခြင်း၊ ချွင်းချက်မှာ သက်ဆိုင်ရာအဖွဲ့ဝင်သည် ယင်းကဲ့သို့ဖွင့်ဟပြောခြင်းကိုနယ်နမိတ်နှင့်သဘာဝကိုကန့်သတ်ရန်ကျင့်သုံးနိုင်သော ဥပဒေနည်းလမ်းများအားလုံးကိုသုံးရမည်။

(၂) အပိုဒ် ၁၁ အရ အငြင်းပွားမှုကြောင့် ဖြေရှင်းရန် လိုအပ် သို့မဟုတ် ဆန္ဒရှိလျှင်၊

(၃) သက်ဆိုင်ရာအဖွဲ့ဝင် သို့မဟုတ် ယင်း၏မိတ်ဖက်များအားငွေချေးစာချုပ် သို့မဟုတ် စည်းမျဉ်းဥပဒေ သို့မဟုတ် အစိုးရကတောင်းဆိုလျှင်၊ ယင်းကဲ့သို့ထုတ်ဖော်ပြောခြင်းသည် အဖွဲ့ဝင်များကြားသဘောတူထားသည့် (ဖြစ်နိုင်သည့်အတိုင်းအတာအထိ) ပုံစံနှင့်သဘာဝဖြစ်ရမည်။

(၄) သက်ဆိုင်ရာအဖွဲ့ဝင်၏ကျွမ်းကျင်မှုဆိုင်ရာအကြံပေးများ သို့မဟုတ် စာရင်းစစ်များ၊ သို့မဟုတ် အမှန်တကယ် သို့မဟုတ် အလားအလာရှိသောငွေချေးပေးသူများအား သို့မဟုတ် အမှန်တကယ် သို့မဟုတ် အလားအလာရှိသောကန်ထရိုက်တာများ သို့မဟုတ် စီမံကိန်းသို့ကိရိယာပေးသွင်းသူများအား စီမံကိန်းရည်ရွယ်ချက်အတွက် ဖော်ထုတ်ပြောရန်လိုအပ်သည့်အတိုင်းအတာအထိ၊ ဖွင့်ဟပြောခြင်း၊

(၅) စီမံကိန်းကုမ္ပဏီက ACO နှင့် ACO ၏မိတ်ဖက်များအပါအဝင်၊ ယင်း၏အစုရှယ်ယာရှင်များအားဖွင့်ဟပြောခြင်း၊

(၆) ဖွင့်ဟပြောသောအဖွဲ့ဝင်၏ချို့ယွင်းမဟုတ်ဘဲ အများပြည်သူသိရှိလာသော သတင်းအချက်အလက်များ၊

(၇) ငွေချေးပေးသူများကတောင်းဆိုခြင်း၊

(၈) မြေရှိအကျိုးစီးပွားကို မှတ်ပုံတင်ရာတွင်လိုအပ်ခြင်း၊ သို့မဟုတ်

(၉) အခြားအဖွဲ့ဝင်က ယင်းကဲ့သို့ဖွင့်ဟခြင်းကို ကြိုတင်သဘောတူခြင်း၊

(ဂ) စာပိုဒ် (၄)၊ (၅) နှင့် (၆) အရ ဖွင့်ဟပြောရသည့်အခါ၊ ဖွင့်ဟပြောသည့်အဖွဲ့ဝင်သည် သတင်း ဖွင့်ဟပြောခံရသူသည် ယင်းကိုလျှို့ဝှက်ထားရှိမည့်အကြောင်းကိုသေချာစေရန်၊ သင့်တော်သောအားထုတ်မှုသုံးရမည်။

(ဃ) အထက်ပါအပိုဒ် ၁၄.၇ (က) ကို အောက်ပါတို့တွင် မသုံးရ၊

(၁) ဤသဘောတူညီချက်ကိုဖေါက်ဖျက်ခြင်းမဟုတ်ဘဲ၊ အများပြည်သူသိရှိသည့် သတင်းအချက်အလက်

(၂) လျှို့ဝှက်ထားရမည့်တာဝန်ကိုချိုးဖေါက်ခြင်းကြောင့်မဟုတ်ဘဲ၊လက်ခံရသော အဖွဲ့ဝင်၏လက်ဝယ်ရှိသောသတင်းအချက်အလက်များ

(၃) လျှို့ဝှက်ထားရမည့်တာဝန်ကိုချိုးဖေါက်ခြင်းကြောင့်မဟုတ်ဘဲ၊လက်ခံရသော တတိယအဖွဲ့ဝင်ထံမှရသည့်သတင်းအချက်အလက်များ

၁၄.၈ စွန့်လွှတ်သူများ

(က) ဤသဘောတူညီချက်ပါပြဋ္ဌာန်းချက်များကိုဆောင်ရွက်ရာတွင် အခြားအဖွဲ့ဝင်၏ချို့ယွင်းချက် သို့မဟုတ် ချို့ယွင်းချက်များကို အဖွဲ့ဝင် တစ်ဦးဦးက စွန့်လွှတ်မှုသည် တူသည်ဖြစ်စေ၊ ခြားနားသည်ဖြစ်စေ၊ အခြားစွန့်လွှတ်မှုအဖြစ် အဓိပ္ပါယ်မကောက်ယူရ၊ သက်ဆိုင်ရာ ကိုယ်စားလှယ်မှ လက်မှတ်မထိုးလျှင် အကျိုးသက်ရောက်မှုရှိမည်မဟုတ်၊

(ခ) တစ်ဖက်ဖက်က သဘောတူညီချက်ဆိုင်ရာကိစ္စတွင် မည်သည့်ပျက်ကွက်မှုမှ ဖေါက်ဖျက်မှုဆိုင်ရာ၊ စွန့်လွှတ်မှုဟု မမှတ်ယူရ၊ ဆက်လက်အကျိုးသက်ရောက်နေစေရမည်။

၁၄.၉ ခေါင်းစဉ်များ

ဤသဘောတူညီချက်ပါခေါင်းစဉ်တို့ကို အဆင်ပြေမှုအရသာ အသုံးပြုသည်၊ ယင်းတို့သည် စာချုပ်အစိတ်အပိုင်းနှင့်အဓိပ္ပါယ်ဖွင့်ဆိုမှုအပိုင်းနှင့် မသက်ဆိုင်စေရ။

၁၄.၁၀ တတိယအဖွဲ့ဝင်များ

ငွေချေးပေးသူတို့အားပေးထားသည့်လုပ်ပိုင်ခွင့်မှလွဲ၍ ဤသဘောတူညီချက်သည် အဖွဲ့ဝင်အသီးသီး၏အကျိုးအတွက် ပြုစုထားသည်။

၁၄.၁၁ ဆက်လက်အတည်ဖြစ်နေခြင်း

ဤသဘောတူညီချက်ကိုဖျက်သိမ်းခြင်း၊ သက်တမ်းကုန်ဆုံးခြင်းသည် အဖွဲ့ဝင်များအပေါ် သဘောတူညီချက်ဖျက်သိမ်းပြီးသည့်နောက်ပိုင်း အပိုဒ် ၉၊ ၁၃.၂၊ ၁၄.၁ နှင့် ၁၄.၇ အရ ဆက်လက်အတည်ဖြစ်နေရမည်။

၁၄.၁၂ တရားဝင်ဘာသာစကား

ဤသဘောတူညီချက်ကို အင်္ဂလိပ်ဘာသာ၊ မြန်မာဘာသာဖြင့်ပြုစုရမည်၊ အကယ်၍အဓိပ္ပါယ်ကွဲလွဲမှုရှိပါက အင်္ဂလိပ်ဘာသာဖြင့်စာချုပ်ကလွှမ်းမိုးရမည်။

၁၄.၁၃ ဆက်ခံသူများနှင့်တာဝန်ပေးခံရသူများ

ဤသဘောတူညီချက်သည် ဆက်ခံသူများနှင့်တာဝန်ပေးခံရသူများအပေါ် တရားဝင်အတည်ဖြစ်သည်။

၁၄.၁၄ သဘောတူအတည်ပြုချက်ကို မဆိုင်းငံ့ရ၊ မကြန့်ကြာစေရ၊

သီးခြားပြဋ္ဌာန်းချက်နှင့်ပတ်သက်ပြီး တနည်းအားဖြင့် ပြဋ္ဌာန်းမထားလျှင်၊ အဖွဲ့ဝင်တစ်ဦး၏လက်ခံကြောင်း၊သဘောတူချက်သို့မဟုတ်အတည်ပြုချက်လိုအပ်သည့်အခါတိုင်းယင်းလက်ခံကြောင်း၊ သဘောတူချက် သို့မဟုတ် အတည်ပြုချက်ကို မလိုအပ်ဘဲ ယင်းအဖွဲ့ဝင်က မဆိုင်းငံ့ရ သို့မဟုတ် မကြန့်ကြာစေရ။

၁၄.၁၅ သဘောတူညီချက်၏အစိတ်အပိုင်းဖြစ်ခြင်း

စီမံကိန်းနေရာမြေပုံ၊ မြေပိုင်ဆိုင်မှု၊ စာရွက်စာတမ်းများနှင့် တည်ရှိသည့်အဆောက်အဦးတည်နေရာများအပါအဝင် ဇယား (၁) တွင်ပူးတွဲပါသည့် စီမံကိန်းနေရာဖေါ်ပြချက်သည် ဤသဘောတူညီချက်၏အစိတ်အပိုင်းဖြစ်သည်။

အောက်ပါသက်သေများရှေ့တွင် အဖွဲ့ဝင်များသည်တရားဝင်ချိနှောင်ရန်ရည်ရွယ်ချက်ဖြင့် ဤသဘောတူညီချက်ကို အထက်ဖော်ပြပါ နှစ်၊ ရက်တွင် ယင်းတို့၏တရားဝင်ကိုယ်စားလှယ်များက လက်မှတ်ရေးထိုးကြသည်။

လက်မှတ်များ

အငှားချထားသူ

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့

ကိုယ်စားပြုသူ ..........................................

အမည် ..........................................

ရာထူး ..........................................

စီမံကိန်းကုမ္ပဏီ

CONVALT ENERGY MYANMAR CO., LTD.

ကိုယ်စားပြုသူ ..........................................

အမည် ..........................................

ရာထူး ..........................................

သက်သေ

လက်မှတ် ..........................................

အမည် ..........................................

ရာထူး ..........................................

နေ့စွဲ။ ၂၀၁၆ ခုနှစ်               လ (     ) ရက်

မန္တလေးတိုင်းဒေသကြီးအစိုးရ

နှင့်

ကန့်သတ်စွမ်းအင်မြန်မာကုမ္ပဏီ တို့၏

မန္တလေးတိုင်းဒေသကြီး၊ မိတ္ထီလာခရိုင်၊ ဂမ်းတွင်းဒေသရှိ
ဧက ၈၅၀ မြေနေရာ

မြေငှားစာချုပ်

## မာတိကာ

ဤမြေငှားစာချုပ်ကို ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ (၄) ရက်နေ့တွင် အောက်ပါတို့ကြားချုပ်ဆိုသည်။

(၁) မန္တလေးတိုင်းဒေသကြီးအစိုးရ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ (ယခုမှစ၍ ***ငှားရမ်းသူ*** ဟု ရည်ညွှန်းရန် နှင့် အဓိပ္ပါယ်ဖွင့်ဆိုရာတွင် ယင်း၏ဆက်ခံသူများ နှင့်ခွင့်ပြုတာဝန်ပေးထားသူ များပါဝင်သည်ဟုမှတ်ယူရမည်။) ကို ဤစာချုပ်အတွက် ကိုယ်စားပြုသူ၊ ဝန်ကြီးဦးကျော်မြင့်၊ လျှပ်စစ်စွမ်းအားနှင့်စက်မှုဝန်ကြီးဌာန၊ မန္တလေးတိုင်း၊ တစ်ဖက်နှင့်

(၂) ကန့်သတ်စွမ်းအင်မြန်မာကုမ္ပဏီလီမိတက်၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၏ဥပဒေများအရ တည်ထောင်ထားပြီး၊မှတ်ပုံတင်ရုံးကို အမှတ် ၂၅ (ဘီ)၊ ကမ္ဘောဇလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်၊ မြန်မာ (ယခုမှစ၍ ***စီမံကိန်းကုမ္ပဏီ*** ဟုရည်ညွှန်းခေါ်ဆိုရန်နှင့် အဓိပ္ပါယ်ဖွင့်ဆိုရာတွင် တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများ နှင့်ခွင့်ပြုတာဝန်ပေးထားသူ များပါဝင်သည်ဟု မှတ်ယူရမည်။) ဤစာချုပ်အတွက် ကိုယ်စားပြုသူ၊ CEO. Mr. Hari Achuthan ကအခြား တစ်ဖက်။

(က) စီမံကိန်းကုမ္ပဏီသည် ACO Investment Group LLC (ACO) ကတည်ထောင်သည့် အထူးကိစ္စရပ်ကုမ္ပဏီဖြစ်ပြီး၊ CONVALT MANDALAY SOLAR PRIVATE LIMITED ပိုင်ဆိုင်ပြီး၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတွင်တည်ရှိသည့်နေရောင်ခြည်စွမ်းအင်သုံးလျှပ်စစ်ဓါတ်အား ထုတ်လုပ်သည့်စီမံကိန်း (solar photovoltaic project) (***စီမံကိန်း***) ကိုတည်ဆောက်၊ ဆောင်ရွက်ရန်ဖြစ်သည်။

(ခ) ငှားရမ်းသူနှင့် ACO တို့ကြားချုပ်ဆိုသည့် ၂၀၁၃ ခုနှစ် ဖေဖော်ဝါရီလ (၈) ရက်နေ့စွဲပါ နားလည်မှုစာချွန်အရ၊ငှားရမ်းသူသည်စီမံကိန်းတည်ဆောက်၊ဆောင်ရွက်ရန်အတွက်သင့်တော်သည့်မြေနေရာနှင့်အသုံးချခွင့်ပေးရန်တာဝန်ယူသည်။

(ဂ) ငှားရမ်းသူသည် မန္တလေးတိုင်းဒေသကြီး၊ မိတ္ထီလာခရိုင်၊ ဝမ်းတွင်းဒေသရှိ ၈၅၀ ဧက ရှိသော စီမံကိန်းနေရာကို စီမံကိန်းကုမ္ပဏီသို့ ငှားရမ်းရန်ဆန္ဒရှိပြီး၊ စီမံကိန်း ကုမ္ပဏီကအောက်ပါ စီမံကိန်းနေရာကို ဤသဘောတူညီချက်တွင်ဖော်ပြထားသည့် စည်းမျဉ်း၊ စည်းကမ်းများဖြင့် ငှားရမ်းသူထံမှ ငှားယူရန်ဆန္ဒရှိသည်။

ထို့ကြောင့် ယခုဖော်ပြသည့် မြေနေရာများနှင့် ယင်းမှရလာမည့်အပြန်အလှန်အကျိုးအမြတ်များကို လည်းကောင်း၊ ကိုယ်စားပြုခြင်းနှင့်အာမခံခြင်းကိုလည်းကောင်း၊ စည်းမျဉ်းများနှင့်ကတိကဝတ်များကို လည်းကောင်း တုန့်ပြန်သောအားဖြင့်၊ စာချုပ်အဖွဲ့ဝင်များသည် တရားဝင်ပေါင်းစည်းချီနှောင်ရန် ရည်ရွယ်ပြီး၊ အောက်ပါအတိုင်းသဘောတူသည်၊

၁။ **သတ်မှတ်ချက်များနှင့်အဓိပ္ပါယ်ဖွင့်ဆိုချက်**

၁.၁ **သတ်မှတ်ချက်များ**

ဤသဘောတူညီချက်တွင်အခြားနည်းအားဖြင့်သတ်မှတ်ထားခြင်း သို့မဟုတ် တစ်နည်းအားဖြင့်၊လျှပ်စစ်ဝယ်ယူသည့်သဘောတူညီချက် (PPA) (အောက်တွင်ဖော်ပြထားသည့်အတိုင်း) တွင်သတ်မှတ်ထားသည့်စကားရပ်များလိုအပ်ချက်များမှတစ်ပါး၊ ဤသဘောတူညီချက်တွင် သုံးသည့်အခါ အဓိပ္ပါယ်နှင့်ဆိုလိုချက်တူညီရမည်။ ဤသဘောတူညီချက်အတွက် အောက်ပါစကားရပ်များသည် သူတို့၏အဓိပ္ပါယ်များအတိုင်းဖြစ်သည်။

*Access Easement ဝင်ရောက်ခွင့်* ဆိုသည်မှာ အပိုဒ် ၃.၁ (က) တွင်ဖော်ပြထားသည့်အဓိပ္ပါယ်ဖြစ်သည်။

*ACO* ဆိုသည်မှာ ဤသဘောတူညီချက်၏ နိဒါန်း (က) တွင်ဖော်ပြထားသည့်အဓိပ္ပါယ် ဖြစ်သည်။

***တွဲဖက်ကုမ္ပဏီ*** ဆိုသည်မှာ အဖွဲ့ဝင်တစ်ဦးနှင့်ပတ်သက်ပြီး ထိုအဖွဲ့ဝင်က ယခု သို့မဟုတ် နောင်တွင်တိုက်ရိုက်ဖြစ်စေ၊သွယ်ဝိုက်၍ဖြစ်စေ၊ ထိန်းချုပ်သည့်အဖွဲ့အစည်းကိုလည်းကောင်း၊ ထိုအဖွဲ့ဝင်က ယခုသို့မဟုတ် နောင်တွင်တိုက်ရိုက်ဖြစ်စေ၊သွယ်ဝိုက်၍ဖြစ်စေ၊ ထိန်းချုပ်သည့် အဖွဲ့အစည်း သို့မဟုတ် လူပုဂ္ဂိုလ်၊ကိုလည်းကောင်း သို့မဟုတ် ထိုအဖွဲ့ဝင်နှင့်အတူ ဘုံထိန်းချုပ်မှုအောက်ရှိ အဖွဲ့အစည်း နှင့် လက်ရှိ သို့မဟုတ် နောင်တွင်ဖြစ်လာမည့် ဦးပိုင် သို့မဟုတ် တွဲဖက်ကုမ္ပဏီကိုလည်းကောင်း၊ သို့မဟုတ် အဖွဲ့ဝင်တစ်ဦး၏ဦးပိုင်ကုမ္ပဏီ၏ တွဲဖက်ကုမ္ပဏီကိုလည်းကောင်း ထိုအဖွဲ့ဝင်၏တွဲဖက်ကုမ္ပဏီဟုမှတ်ယူရမည်။

***သဘောတူညီချက်*** ဆိုသည်မှာ ဤသဘောတူညီချက်ကိုဆိုလိုသည်။ ယင်းတွင် ပူးတွဲပါဇယားများပါဝင်သည်။

*သက်ဆိုင်သည့်ဥပဒေ* ဆိုသည်မှာ စီမံကိန်း၊ စီမံကိန်းနေရာ သို့မဟုတ် ခွင့်ပြုသည့်နေရာများကို တည်ဆောက်၊ ဆောင်ရွက်၊ ပိုင်ဆိုင်မှုနှင့်ထိန်းသိမ်းရာတွင် ကျင့်သုံးသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ဥပဒေများကိုဆိုလိုသည်။

*အလုပ်လုပ်သောနေ့* ဆိုသည်မှာ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတွင် စနေ၊ တနင်္ဂနွေနေ့များမှလွဲပြီး၊ သာမန်လုပ်ငန်းများအတွက် ဘဏ်ဖွင့်သောနေ့ကိုဆိုလိုသည်။

*ပြီးဆုံးသည့်နေ့* ဆိုသည်မှာ စီမံကိန်းကုမ္ပဏီကသဘောရိုးဖြင့်ဆုံးဖြတ်သည့်အတိုင်း၊ စီမံကိန်းကုမ္ပဏီက စီမံကိန်းနေရာနှင့်ပတ်သက်ပြီး၊မြေမျက်နှာသွင်ပြင် နှင့်ပထဝီအနေအထားနှင့်ဆက်နွယ်သောကနဦးလေ့လာမှုနှင့်စမ်းသပ်မှုပြီးဆုံးကြောင်း နှင့် စီမံကိန်းအားဘဏ်မှငွေချေးနိုင်မှုဖြစ်နိုင်စွမ်းလေ့လာချက်နှင့်ပတ်သက်ပြီး၊ စီမံကိန်းတည်ဆောက်ရေးအတွက် လုံလောက်သောငွေကြေးရရှိပြီးကြောင်း၊ကို ငှားရမ်းသူထံသို့ စာဖြင့်အကြောင်းကြားစာပို့သည့်အလုပ်လုပ်သောနေ့ကိုဆိုလိုသည်။

*အငြင်းပွားမှု* ဆိုသည်မှာ အပိုဒ် ၁၁ (က) တွင်ဖော်ပြထားသည့်အဓိပ္ပါယ်ဖြစ်သည်။

*ခွင့်ပြုသောဧရိယာ*ဆိုသည်မှာ ခွင့်ပြုချက်များပေးထားသည့်ဧရိယာကိုဆိုလိုသည်။

*ခွင့်ပြုချက်* ဆိုသည်မှာ ဝင်ရောက်ခွင့်၊ အသုံးချခွင့်၊ ရေပိုက်လိုင်းသွယ်တန်းခွင့် နှင့် ဤသဘောတူညီချက်၏အပိုဒ် ၃.၅အရ ပေးထားသည့်အခြားခွင့်ပြုချက်များအသီးသီးကိုဆိုလိုသည်။

*အကျိုးသက်ရောက်သောနေ့* ဆိုသည်မှာ အဖွဲ့ဝင်များက ဤသဘောတူညီချက်ကို လက်မှတ်ထိုးသောနေ့ကိုဆိုလိုသည်။

*ပတ်ဝန်းကျင်ဆိုင်ရာအခြေအနေ* ဆိုသည်မှာ အောက်ပါတို့နှင့်ပတ်သက်ပြီး၊ စီမံကိန်းနေရာနှင့်ခွင့်ပြုထားသည့်ဧရိယာများရှိ အခြေအနေကိုဆိုလိုသည်။

(က) စီမံကိန်းနေရာ သို့မဟုတ် ခွင့်ပြုဧရိယာအားလုံး သို့မဟုတ် အစိတ်အပိုင်းတစ်ခုခုတွင်၊ ယင်းနေရာသို့ဖြစ်စေ၊ ယင်းနေရာမှဖြစ်စေ၊ ယင်းနေရာတွင်ဖြစ်စေ၊ ယင်းနေရာအောက်တွင်ဖြစ်စေ၊ သို့မဟုတ် ယင်းနေရာအတွင်းတွင်ဖြစ်စေ အန္တရာယ်ရှိသည့်ပစ္စည်းများတည်ရှိခြင်း၊ ဝင်ရောက်လာခြင်း၊ ပြောင်းရွှေ့ခြင်း၊ ထုတ်လွှတ်ခြင်း၊ ပျော်ဝင်ခြင်း သို့မဟုတ် စွန့်ထုတ်ခြင်း တစ်ခုခု၊

(ခ) လက်ရှိ သို့မဟုတ် နောက်တွင်ရှိလာမည့် ပတ်ဝန်းကျင်ဆိုင်ရာဥပဒေများကို ချိုးဖောက်သည့်၊ သို့မဟုတ် တစ်ဦးဦးကချိုးဖောက်သည်ဟုစွပ်စွဲခံရသည့်အနေအထား၊ ဖြစ်ရပ် သို့မဟုတ် အခြေအနေတစ်ခုခု၊

(ဂ) စီမံကိန်းနေရာ သို့မဟုတ် ခွင့်ပြုဧရိယာပေါ် သို့မဟုတ် အောက်တွင် ရှေးဟောင်းပစ္စည်းများ သို့မဟုတ် အခြားသမိုင်းဝင်အသုံးအဆောင်ပစ္စည်းများတည်ရှိမှု၊

(င) စီမံကိန်းနေရာ သို့မဟုတ် ခွင့်ပြုဧရိယာပေါ် သို့မဟုတ် အောက်တွင် မပေါက်ကွဲသေးသည့်ခဲယမ်းမီးကျောက်များတည်ရှိမှု၊

*ပတ်ဝန်းကျင်ဆိုင်ရာဥပဒေ* ဆိုသည်မှာ ၂၀၁၂ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေအပါအဝင် ကန့်သတ်မထားသည့် ညစ်ညမ်းမှု၊ အန္တရာယ်ရှိပစ္စည်းများ၊ သို့မဟုတ် လူသားများကျန်းမာရေး သို့မဟုတ် ပတ်ဝန်းကျင်ကို ကာကွယ်ရေးတို့နှင့်သက်ဆိုင်သည့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၏ဥပဒေများကိုဆိုလိုသည်။

*ဖေါက်ဖျက်၊ ပျက်ကွက်မှုကိစ္စရပ်* ဆိုသည်မှာ အပိုဒ် ၁၂ ရှိဖေါက်ဖျက်၊ ပျက်ကွက်မှုပါဝင်သည့် ဖြစ်ရပ် သို့မဟုတ် အခြေအနေကိုဆိုလိုသည်။

*အန္တရာယ်ရှိသောပစ္စည်း* ဆိုသည်မှာ (ပတ်ဝန်းကျင်ဆိုင်ရာဥပဒေတွင်ဖေါ်ပြထားသည့်အတိုင်း သတ်မှတ် သို့မဟုတ် ဖေါ်ပြထားသည့်ပစ္စည်းတစ်ခုခုအပါအဝင်) အန္တရာယ်ရှိသော၊ အဆိပ်ဖြစ်စေ သည့် သို့မဟုတ် ညစ်ညမ်းစေသောအစိုင်အခဲ၊ ပစ္စည်း သို့မဟုတ် စွန့်ပစ်ပစ္စည်းကို ဆိုလိုသည်။

*ငှားရမ်းကာလ* ဆိုသည်မှာ အပိုဒ် ၆.၁ တွင်ဖေါ်ပြထားသည့်အဓိပ္ပါယ်ရှိသည်။

*ချေးငှားသူများ* ဆိုသည်မှာ စီမံကိန်းရည်ရွယ်ချက်အတွက် သို့မဟုတ် စီမံကိန်းကုမ္ပဏီသို့ အကြွေးပေးသည့်ဘဏ်၊ ငွေကြေးအဖွဲ့အစည်း သို့မဟုတ် အခြားငွေချေးသူများကိုဆိုလိုသည်။

*နားလည်မှုစာချွန် (MOU)* ဆိုသည်မှာဤသဘောတူညီချက်၏နိဒါန်း (ခ) တွင်ဖေါ်ပြထားသည့် အဓိပ္ပါယ်ရှိသည်။

*အဖွဲ့ဝင်* ဆိုသည်မှာ ဤသဘောတူညီချက်ပါအဖွဲ့ဝင်ကိုဆိုလိုသည်။ အဖွဲ့ဝင်များဆိုသည်မှာ ယင်းတို့ကိုစုပေါင်းပြီး ဆိုလိုသည်။

*လျှပ်စစ်ဝယ်ယူသည့်သဘောတူညီချက် (PPA)* ဆိုသည်မှာ ဤသဘောတူညီချက်ပါနေ့ သို့မဟုတ် ယင်းနေ့လောက်တွင် ချုပ်ဆိုသည့်စီမံကိန်းကုမ္ပဏီနှင့်မြန်မာ့လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနကြား လျှပ်စစ်ဝယ်ယူသည့်သဘောတူညီချက် ကိုဆိုလိုသည်။

*စီမံကိန်း* ဆိုသည်မှာ ဤသဘောတူညီချက်၏နိဒါန်း (က) တွင်ဖော်ပြထားသည့် အဓိပ္ပါယ်ရှိသည်။

*စီမံကိန်းနေရာ* ဆိုသည်မှာ ဇယား ၁ တွင် စီမံကိန်းနေရာအဖြစ်သတ်မှတ်ထားသည့်အတိုင်း၊ ဖော်ပြထားသည့်မြေပုံအညွှန်းနေရာကိုဆိုလိုသည်။

*အသုံးချခွင့်ပြုချက်* ဆိုသည်မှာ အပိုဒ် ၃.၂ တွင်ဖော်ပြထားသည့်အဓိပ္ပါယ်ဖြစ်သည်။

*ရေပိုက်လိုင်းဆက်သွယ်ခွင့်* ဆိုသည်မှာ အပိုဒ် ၃.၃ တွင်ဖော်ပြထားသည့်အဓိပ္ပါယ်ဖြစ်သည်။

*အမေရိကန်ဒေါ်လာ သို့မဟုတ် US$* ဆိုသည်မှာ အမေရိကန်ပြည်ထောင်စု၏လက်ရှိတရားဝင်ငွေကြေးကိုဆိုလိုသည်။

၁.၂ အဓိပ္ပါယ်ဖွင့်ဆိုချက်

ဤသဘောတူညီချက်တွင်

(၁) အပိုဒ်နှင့်ဇယားများသည် အခြားနည်းအားဖြင့်ဖော်ပြရန်မလိုအပ်လျှင် ဤသဘောတူညီချက်ရှိ အပိုဒ်များ နှင့်ဇယားများကိုရည်ညွှန်းသည်။

(၂) ကြရှုည်ခံ၊ မြင်ရသောပုံစံဖြင့်၊ လက်နိပ်စက်ရိုက်ခြင်း၊ ပုံနိပ်ခြင်း၊ ကျောက်ပုံနိပ်ခြင်း၊ ဓါတ်ပုံရိုက်ခြင်းနှင့် အခြားတစ်ခုခုနှင့် ကိုယ်စားပြု သို့မဟုတ် ပြန်လည်ထုတ်လုပ်သည့် စကားလုံးများ၊ ပုံများ သို့မဟုတ် သင်္ကေတများ။

(၃) တာဝန်များဆောင်ရွက်ခြင်းအတွက် သီးခြားဖော်ပြသည့်အချိန်သည် ထိုတာဝန်ကို ဆောင်ရွက်သည့်နေရာရှိ ထိုအချိန်ကို ရည်ညွှန်းချက်ဖြစ်သည်။

(၄) ဤသဘောတူညီချက်ပါအဖွဲ့ဝင်တစ်ဦးတွင်ထိုအဖွဲ့ဝင်၏ဆက်ခံသူများနှင့်ခွင့်ပြုသည့် တာဝန်ပေးထားသူများပါဝင်သည်။

(၅) ဤသဘောတူညီချက်တွင်ပါဝင်သောစာချုပ်စာတမ်း သို့မဟုတ် သဘောတူညီချက်သည် အခါအားလျော်စွာ အစားထိုး၊ ပြင်ဆင်၊ ထပ်ဆောင်း သို့မဟုတ် ပြန်လည်ထဲ့သွင်းသည့်အတိုင်း ထိုစာချုပ်စာတမ်း သို့မဟုတ် သဘောတူညီချက်အား ရည်ညွှန်းချက်ပါဝင်သည်။

၂။ အသုံးချသူလုပ်ပိုင်ခွင့် ငှားရမ်းခြင်းနှင့်ပေးအပ်ခြင်း

၂.၁ စီမံကိန်းနေရာငှားရမ်းခြင်း

ငှားရမ်းသူသည်တရားဝင်နှင့်အကျိုးအမြတ်ရသည့်ပိုင်ရှင်အနေဖြင့်စီမံကိန်းကုမ္ပဏီအား အငှားချထားရာ၊ စီမံကိန်းကုမ္ပဏီက ငှားရမ်းသူထံမှ စီမံကိန်းနေရာကို ဤသဘောတူညီချက်တွင်ဖေါ်ပြထားသည့်စည်းမျဉ်းစည်းကမ်းများအားလုံးနှင့်အညီ ငှားရမ်းကာလအတွက် ငှားရမ်းရယူသည်။

၂.၂ လိုင်စင်

ဤသဘောတူညီချက်အရပေးအပ်သည့်ငှားရမ်းခြင်းကိုမထိခိုက်စေဘဲ၊ အငှားချထားသူသည် စီမံကိန်းကုမ္ပဏီအားအကျိုးသက်ရောက်သည့်နေ့မှစပြီး၊ နောက်ပိုင်း၊ ပြီးဆုံးသည့်နေ့အပါအဝင် စီမံကိန်းနေရာနှင့် ခွင့်ပြုသည့်ရည်ယာများကို ဤသဘောတူညီချက်တွင်ဖေါ်ပြထားသည့် ရည် ရွယ်ချက်အတွက် အမြဲတမ်းဝင်ရောက်အသုံးပြုခွင့်လိုင်စင်ကို ပေးသည်။

၃။ ငှားရမ်းကာလခွင့်ပြုချက်များ

၃.၁ ဝင်ရောက်ခွင့်

(က) အငှားချထားသူသည် စီမံကိန်းကုမ္ပဏီအား စီမံကိန်းကုမ္ပဏီကလိုအပ်သည့်အငှားချထားသူ၏ မြေအစိတ်အပိုင်းတစ်ခုလုံးတွင် စီမံကိန်းနေရာသို့ ဇယား ၂ ( ဝင်ရောက်ခွင့်ပြုချက်) တွင်သေးစိတ်ဖေါ်ပြထားသည့်နေရာများသို့အပါအဝင်ကန့်သတ်မထားဘဲ၊လူနှင့်ယာဉ်များဝင်ထွက်သွားလာရန်အတွက် ပြန်လည်မရုတ်သိမ်းနိုင်သောခွင့်ပြုချက်ကို ပေးအပ်သည်။

(ခ) စီမံကိန်းကုမ္ပဏီသည် လမ်းခင်းခြင်း၊ အဆင့်မြှင့်ခြင်း၊ ဝင်ပေါက်ဂိတ်များ၊ မြေအောက် မြောင်းများ၊ ရေထုတ်မြောင်းများနှင့်အခြားပတ်သက်သည့်အထောက်အကူဖြစ်သည့်ကိစ္စရပ်များအပါအဝင်

(ကန့်သတ်မထားဘဲ၊ ) ဝင်ရောက်ခွင့်အတွက်လိုအပ်သော သို့မဟုတ် လုပ်ချင်သော မည်သည့်တိုး တက်ပြောင်းလဲမှုကိုမဆို ယင်း၏စရိတ်ဖြင့် ပြုလုပ်ခွင့်ရှိရမည်။

(ဂ) စီမံကိန်းကုမ္ပဏီသည် စီမံကိန်းတည်နေရာကိုမှတ်သားရန်ဝင်ရောက်ခွင့်ပြုသည့်နေရာအတွင်း လမ်းညွှန်အမှတ်အသား တစ်ခု သို့မဟုတ် ယင်းထက်ပိုပြီး ယင်း၏စရိတ်ဖြင့် တပ်ဆင်ထိန်းသိမ်းခွင့် ရှိရမည်။

၃.၂ အသုံးပြုခွင့်များ

အငှားချထားသူသည် စီမံကိန်းကုမ္ပဏီအား အငှားချထားသူ၏မြေနေရာအားလုံးတွင်၊ အပေါ် နှင့်ဖြတ်ပြီး၊ ရေ၊ အညစ်အကြေးစွန့်ပစ်ခြင်း၊ လျှပ်စစ်၊ သို့မဟုတ် ဆက်သွယ်ရေးကိရိယာများ ကို စီမံကိန်းကုမ္ပဏီ (သို့မဟုတ် ယင်းကခန့်အပ်သည့်ကန်ထရိုက်တာ) က ဒီဇိုင်းရေးဆွဲ၊ တည်ဆောက်၊လုပ်ကိုင်ပြီး၊ထိန်းသိမ်းခြင်း၊ပြင်ဆင်ခြင်း၊အစားထိုးခြင်း၊ပိုင်ဆိုင်ခြင်းနှင့် လုပ်ကိုင် ခြင်းများအပါအဝင်အသုံးပြုရသည့်အပေါ် ထပ်အဆောက်အအုံအားလုံးကိုတပ်ဆင်ခြင်း၊ဆောင် ရွက်ခြင်း၊ထိန်းသိမ်းခြင်း၊ပြင်ဆင်ခြင်းနှင့်အစားထိုးခြင်းများအတွက်ပြန်လည်ရုတ်သိမ်းမရသော လုပ်ကိုင်ခွင့်ကိုပေးသည်။ ဇယား ၂ (*အသုံးပြုခွင့်များ*) တွင်ပိုမိုအသေးစိတ်ဖော်ပြထားသည့် နေရာများအပါအဝင် ကန့်သတ်မထားဘဲ၊ တည်နေရာနှင့်မြေပုံအညွှန်းများကို စီမံကိန်း ကုမ္ပဏီက အငှားချထားသူအား လုပ်ငန်းမစမီ ကြိုတင်အသိပေးအကြောင်းကြားရမည်။

၃.၃ ရေပိုက်လိုင်းသွယ်တန်းခွင့်

အငှားချထားသူသည်စီမံကိန်းကုမ္ပဏီအားအငှားချထားသူ၏မြေနေရာနှင့်စီမံကိန်း နေရာအား လုံး တွင်၊ အပေါ် နှင့်ဖြတ်ပြီး၊ ရေတွင်းများ၊ ရေစုတ်စက်များ၊ သိုလှောင်ကန်များ၊ ရေပန်းများ၊ ဆေးကြောသည့်ကိရိယာများ၊ သို့မဟုတ် စွန့်ထုတ်မြောင်းများ၊ နေရာမှရေစုတ်တင်ခြင်း၊ ရေပိုက်ဖြင့်ပေးပို့ခြင်းများကို တပ်ဆင်ခြင်း၊ တူးဖော်ခြင်း၊ တည်ဆောက်ခြင်း၊ ထိန်းသိမ်းခြင်း၊ ပြင်ဆင်ခြင်း၊ အစားထိုးခြင်း၊ပိုင်ဆိုင်ခြင်းနှင့် လုပ်ကိုင်ခြင်းများနှင့်ယင်းအတွက် ပြန်လည်ရုတ် သိမ်းမရသောလုပ်ကိုင်ခွင့်ကိုပေးသည်။လုပ်ကိုင်ခွင့်ကိုပေးသည်။ ဇယား ၂ (*ရေပိုက်သွယ် တန်းခွင့်များ*) တွင်ပိုမိုအသေးစိတ်ဖော်ပြထားသည့် နေရာများအပါအဝင် ကန့်သတ်မထားဘဲ၊

တည်နေရာနှင့်မြေပုံအညွှန်းများကို စီမံကိန်း ကုမ္ပဏီက အငှားချထားသူအား လုပ်ငန်းမစမီ ကြိုတင်အသိပေးအကြောင်းကြားရမည်။

၃.၄ အထွေထွေပြဌာန်းချက်များ

(က) စီမံကိန်းကုမ္ပဏီသည်ခွင့်ပြုသောဧရိယာများတွင် စီမံကိန်းအတွက်အုတ်မြစ်ချခြင်း၊အခြေခံတည်ဆောက်ခြင်း၊မြေဖို့သိပ်သည်းခြင်းသို့မဟုတ်အခြေခံပစ္စည်းများနှင့်မြေအောက်ပိုက်လိုင်းများ သို့မဟုတ် ကေဘယ်ကြိုးများစသည့်မြေအောက်ထောက်ပံ့ပိုးသည့်အပိုင်းများ နှင့်အစိတ် အပိုင်းများကို တပ်ဆင် သို့မဟုတ် တည်ဆောက်ခွင့်ရှိရမည်။

(ခ) အငှားချထားသူသည် စီမံကိန်းကုမ္ပဏီကရည်ရွယ်သည့်ကိစ္စအတွက် အသုံးပြုခွင့်ကို အသုံးချရာတွင်အနှောက်အယှက်ဖြစ်နိုင်သည်ဟုမျှော်လင့်ရသောမည်သည့်မြေအောက် တည်ဆောက်မှုများကိုမဆိုမပြုလုပ်ကြောင်းနှင့်မသိနားမလည်ကြောင်းကို အာမခံ၊ကိုယ်စားပြုသည်။

(ဂ) စီမံကိန်းနေရာနှင့်မည်သည့်အသုံးချခွင့်ရဧရိယာများမဆို စီမံကိန်းကုမ္ပဏီက စီမံကိန်းနေရာ သို့မဟုတ် အသုံးချခွင့်ရဧရိယာများကို သူတို့ရည်ရွယ်သည့်လုပ်ငန်းအတွက် အသုံးပြုမရနိုင်ကြောင်း အန္တရာယ်ရှိပစ္စည်းများ သို့မဟုတ် မပေါက်ကွဲသေးသည့်ခဲယမ်းမီးကျောက်များတည်ရှိကြောင်းအပါအဝင်၊ မည်သည့်အကြောင်းပြချက်ဖြင့်မဆို ဆုံးဖြတ်လျှင်၊ စီမံကိန်းကုမ္ပဏီသည် အငှားချထားသူအားကြိုတင်အကြောင်းရမည့်စည်းကမ်းအရ၊ (ယင်းကဲ့သို့အတည်ပြုချက်ကို မလိုအပ်ဘဲ ထိန်းထားခြင်း သို့မဟုတ် ငြင်းပယ်ခြင်းများမပြုလုပ်ရ၊) စီမံကိန်းကုမ္ပဏီကဆုံးဖြတ်ထားသော နေရာသို့ ပြန်လည်နေရာချထားခွင့်ရှိရမည်။

(ဃ) အသုံးချလုပ်ပိုင်ခွင့်များသည် ဤသဘောတူညီချက်ကာလတလျှောက် ဆက်လက်တရားဝင်အကျိုးသက်ရောက်မည်။

(င) စီမံကိန်းကုမ္ပဏီသည်အငှားချထားသူအားကြိုတင်အကြောင်းရမည့်စည်းကမ်းချက်နှင့်အညီ၊ အသုံးချခွင့်ရသည့်ဧရိယာများကို ခြံစည်းရိုးခတ်ခွင့်ရှိရမည်။ ယင်းကဲ့သို့အတည်ပြုချက်ကို မလိုအပ်ဘဲ ထိန်းထားခြင်း သို့မဟုတ် ကြန့်ကြာခြင်းများမပြုလုပ်ရ၊

(စ) အငှားချထားသူသည် စီမံကိန်းနေရာ သို့မဟုတ် အသုံးချခွင့်ရသည့်ပစ္စည်းများအပေါ် အငှားချထားသူ၏ပိုင်ဆိုင်မှုအခွင့်အရေးများနှင့်ပတ်သက်ပြီး မည်သည့်တတိယအဖွဲ့ဝင်ကဆို

စီမံကိန်းကုမ္ပဏီကို ဆန့်ကျင်အရေးဆိုခြင်းများအား နစ်နာကြေးပေးပြီး၊ မထိခိုက်အောင်ထားရှိမည်။ ယင်းတောင်းဆိုမှုများကိုဆန့်ကျင်ပြီး စီမံကိန်းကုမ္ပဏီနှင့် အသုံးချခွင့်ရသည့်ပစ္စည်းများ အပေါ် ခုခံကာကွယ်မည်။

(ဆ) အငှားချထားသူသည် စီမံကိန်းအတွက် စီမံကိန်းနေရာအသုံးပြုရန် အစိုးရအာဏာပိုင်အဖွဲ့ထံမှလိုအပ်သောအခြားခွင့်ပြုချက်ရယူခြင်းလျှောက်ထားရာတွင် လိုအပ်သော အကူအညီများအားလုံးကို စီမံကိန်းကုမ္ပဏီအားပေးမည်၊အရေးယူဆောင် ရွက်မှုမြန်ဆန်စေရန် သင့်တော်သည့်အားထုတ်မှုအားလုံးကိုအသုံးပြုမည်။

၃.၅ နောက်ဆက်တွဲအသုံးချပိုင်ခွင့်များ

မြေနေရာရရှိမှုအရ၊စီမံကိန်းကုမ္ပဏီနှင့်အငှားချထားသူတို့အပြန်အလှန်သဘောတူဆုံးဖြတ်ထားသည့်ယင်းနေရာများတွင်မုန်တိုင်းကြောင့်ရသည့်ရေများကိုထုတ်ရန်ခွင့်ပြုချက်အပါအဝင်ကန့်သတ်မထားဘဲ၊အငှားချထားသူသည်စီမံကိန်းကုမ္ပဏီအားအငှားချထားသူ၏အခြား နေရာ၊နှင့် ယင်းအပေါ် ယင်းကဲ့သို့ နောက်ဆက်တွဲအသုံးချပိုင်ခွင့်များကို စာချုပ်ထားသည့်ပမာဏထက်ကျော်လွန်ပြီး၊ စီမံကိန်းကိုတိုးချဲ့မှုများကိုတည်ဆောက်၊လုပ်ကိုင်၊ ထိန်းသိမ်းရန်၊ စီမံကိန်းကုမ္ပဏီအတွက် သင့်တော်သလို၊ လိုအပ်သည့်အတိုင်းပေးရမည်။

၃.၆ နောက်ထပ်အာမခံခြင်း

အဖွဲ့ဝင်များသည် ယင်းစာချုပ်များနှင့်အခြားစာချုပ်စာတမ်းများ အားလုံးကို ချက်ခြင်းချုပ်ဆိုရမည်။ တနည်းအားဖြင့် ယင်းကိစ္စများကို ခွင့်ပြုချက်များပေးခြင်းနှင့် ပြင်ဆင်ချက်များကို အကျိုးသက်ရောက်ရန်အတွက် သင့်တော်သလို၊ လိုအပ်သည့်အတိုင်း လုပ်ရမည်။

၃.၇ ပုဂ္ဂလိကပိုင်နေရာအပေါ် လုပ်ပိုင်ခွင့်ပြုချက်များ

အငှားချထားသူသည် ဤသဘောတူညီချက်အရပေးသည့်လုပ်ပိုင်ခွင့်ပြုချက်များအားလုံးသည်အငှားချထားသူပိုင်သောမြေပေါ်ဖြစ်ကြောင်းကို အတည်ပြုသည်။ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံရှိပုဂ္ဂလိကပိုင်သောမြေအပေါ် စီမံကိန်းကုမ္ပဏီကလိုအပ်သည့်လုပ်ကိုင်ခွင့်ပြုချက် အတိုင်းအတာအထိ၊ စီမံကိန်းကုမ္ပဏီသည်ယင်းကဲ့သို့နောက်ဆက်တွဲလုပ်ပိုင်ခွင့်ပြုချက်များ အတွက်သင့်တော်သောလျော်ကြေးကို သက်ဆိုင်ရာမြေပိုင်ရှင်များအားပေးရမည်။

၄။ အသုံးပြုခြင်း

၄.၁ ခွင့်ပြုထားသည့်အသုံးပြုခြင်း၊

စီမံကိန်းကုမ္ပဏီသည်စီမံကိန်းကိုတည်ဆောက်ခြင်း၊ပိုင်ဆိုင်ခြင်း၊လုပ်ငန်းဆောင်ရွက်ခြင်း၊လုပ်ငန်းအပ်နှံကြောင်းဆောင်ရွက်ခြင်း၊ စမ်းသပ်ခြင်း၊ စစ်ဆေးခြင်းနှင့်ထိန်းသိမ်းများ၊ လေ့လာမှုဆောင်ရွက်ခြင်းနှင့် စီမံကိန်းနေရာနှင့်သက်ဆိုင်သည့်မြေမျက်နှာသွင်ပြင် နှင့်ပထဝီအနေအထားနှင့်ပတ်သက်ပြီး၊စမ်းသပ်ခြင်းနှင့်စီမံကိန်းကိုတည်ဆောက်၊ဆောင်ရွက်ခြင်းကို မနှောင့်နှေးစေရန်အတွက်အပါအဝင် (ကန့်သတ်ချက်မရှိ) သင့်တော်သလို အဆွယ်အပွားလိုအပ်သည့်ယင်းကဲ့သို့ အခြားကိစ္စများအတွက်သာ အသုံးပြုရမည်။

၄.၂ ကျင့်သုံးသောဥပဒေများ

စီမံကိန်းနေရာအသုံးပြုခြင်းသည် ကျင့်သုံးသောဥပဒေများနှင့်အညီဖြစ်ရမည်။

၄.၃ တည်ရှိနေသည့်အဆောက်အဦးများကိုဖယ်ရှားခြင်း

ဤသဘောတူညီချက်တွင်မည်သို့ပင်ဆန့်ကျင်ပါဝင်လင့်ကစား၊ ဤသဘောတူညီချက်ချုပ်သည့်နေ့မှလည်းကောင်း၊နောက်ပိုင်းမှာလည်းကောင်းစီမံကိန်းကုမ္ပဏီနှင့်ယင်း၏အေးဂျင့်များ၊လိုင်စင်ရရှိသူများသည် စီမံကိန်းရည်ရွယ်ချက်အတွက် စီမံကိန်းနေရာမှ (စိုက်ခင်းများအပါအဝင်) ပစ္စည်းများအားလုံးကိုရှင်းလင်းရန် စီမံကိန်းနေရာ သို့မဟုတ် လုပ်ပိုင်ခွင့်ရသောနေရာများရှိမြေပေါ်အဆောက်အဦးများအားလုံးနှင့်တစ်ခုခုကို ဖြိုချ၊ ဖယ်ရှားခွင့်ရှိရမည်။ စီမံကိန်းကုမ္ပဏီနှင့်ယင်း၏အေးဂျင့်များ၊လိုင်စင်ရရှိသူများကဖြိုချ၊ဖယ်ရှားပြီးနောက်၊ ယင်းကဲ့သို့ တည်ဆောက်မှုများသို့မဟုတ် ပစ္စည်းများကို ပြင်ဆင်၊ ပြန်လည်ထိန်းသိမ်း သို့မဟုတ် အစားထိုးရန်မည်သို့ဆိုစေ၊ မည်သည့်အခြေအနေမှာမဆို စီမံကိန်းကုမ္ပဏီတွင် မည်သည့်တာဝန်မျှမရှိစေရ။

၄.၄ နောင်ဖြစ်လာမည့်တည်ဆောက်မှုများကိုဖယ်ရှားခြင်း

စီမံကိန်းကုမ္ပဏီသည် တာဘိုင်များနှင့် တည်ဆောက်မှုများ သို့မဟုတ် အပေါ်ထပ်အဆောက်အအုံ၊အပါအဝင် နေရောင်ခြည်သုံးလျှပ်စစ်အားထုတ်လုပ်သည့်မှန်ကူကွက်များ၊ စွမ်းအင်စနစ်များကို တပ်ဆင်ထားသည်များ သို့မဟုတ် တွဲဖက်ပစ္စည်းများဟုတ်သည်ဖြစ်စေ၊ မဟုတ်သည်

ဖြစ်စေ၊ငှားရမ်းသက်တမ်းကုန်ဆုံးသည့်အခါဖယ်ရှားခွင့်ရှိရမည်။ချွင်းချက်အားဖြင့်အငှားချထားသူသည် ဂယ်လိုသူ၊ရောင်းလိုသူအခြေခံကာ၊ အဖွဲ့ဂင်များကြားအပြန်အလှန်သဘောတူသည့်အဖိုးစားနားဖြင့် ယင်းတို့ကို ဂယ်ယူနိုင်သည်။

၄.၅ လုပ်ပိုင်ခွင့်ခွဲဝေပေးခြင်း

ဤသဘောတူညီချက်တွင်မည်သို့ပင်ဆန့်ကျင်ပါဂင်လင့်ကစား၊စီမံကိန်းကုမ္ပဏီသည် ယင်း၏ တဦးတည်းဆုံးဖြတ်ချက်ဖြင့် ယင်း၏အခွင့်အရေး သို့မဟုတ် တာဂန်များကို အေးဂျင့်၊ လိုင်စင်ရယူသူ သို့မဟုတ် ကန်ထရိုက်တာ အပါအဂင် (ကန့်သတ်မထားဘဲ) တတိယအဖွဲ့ဂင်သို့ လုပ်ပိုင်ခွင့်ခွဲဝေပေးနိုင်သည်။ အငှားချထားသူသည် ယင်းသို့ခွဲဝေဆောင်ရွက်ခြင်းအတွက် အလားအလာသိရှိပြီး၊ သဘောတူသည်။

၄.၆ စီမံကိန်းနေရာသို့ပြန်လည်ဂင်ရောက်ခွင့်

စီမံကိန်းကုမ္ပဏီသည် ဤသဘောတူညီချက်ပါစည်းမျဉ်းစည်းကမ်းများကို လုပ်ကိုင်ရန် သို့မဟုတ် လိုက်နာရန် ပျက်ကွက်ခဲ့လျှင်၊ အငှားချထားသူထံမှ ယင်းပျက်ကွက်အကြောင်းစာဖြင့် အကြောင်းကြားစာပို့ပြီးနောက် ရက်ပေါင်း ၁၈ဂ (တစ်ရာ့ရှစ်ဆယ်ရက်) အတွင်း ယင်းကဲ့သို့ မဆောင်ရွက်နိုင်ခြင်း သို့မဟုတ် မလိုက်နာခြင်းကို ပြုပြင်ရန်ပျက်ကွက်ခဲ့လျှင်၊ အငှားချထားသူသည် စီမံကိန်းနေရာကို ပြန်လည်ဂင်ရောက်၊ သိမ်းယူပိုင်ခွင့်ရှိရမည်။ ထို့နောက် ငှားရမ်းခြင်းကို ဆုံးဖြတ်ရပ်စဲရမည်။ ချွင်းချက်အားဖြင့် ယင်းကဲ့သို့ပြန်လည်ဂင်ရောက်ခြင်းသည် ငှားရမ်းခ သို့မဟုတ် ပျက်စီးမှုအတွက် လျော်ကြေး၊ တနည်းနည်းဖြင့် စီမံကိန်းကုမ္ပဏီထံမှ ငွေပြန်လည်ရရန်အတွက် အငှားချထားသူ၏မည်သည့်ဆောင်ရွက်ပိုင်ခွင့်ကိုမှ မထိခိုက်စေရ၊

၄.၇ စီမံကိန်းနေရာကိုပြန်လည်လွှဲပြောင်းခြင်း

ဤသဘောတူညီချက်ကုန်ဆုံးခြင်း သို့မဟုတ် ရပ်စဲခြင်းဖြစ်သည့်အခါ၊ ငှားရမ်းသူသည် စီမံကိန်းနေရာကို မြေပြင်ပျက်စီးမှုများကိုပြန်လည်ဖို့ပြီး သို့မဟုတ် အဖိုးအခမယူဘဲပြင်ဆင်ပြီး ကောင်းမွန်သောအခြေအနေဖြင့် အငှားချထားသူထံ ၆ (ခြောက်) လအတွင်းလွှဲပြောင်းပေးရမည်။

စီမံကိန်းကုမ္ပဏီကြောင့် စီမံကိန်းနေရာတွင်ဖြစ်ပေါ်သော ပျက်စီးမှုများနှင့် အပြည့်အဝ ပြောင်းရွှေ့သည့်နေ့အထိ ငှားရမ်းခအတွက် တောင်းဆိုသည့် အငှားချထားသူ၏အခွင့်အရေးများကို မထိခိုက်စေဘဲ ငှားရမ်းသူ၏စရိတ်ဖြင့် ပြောင်းရွှေ့နိုင်လျှင် စီမံကိန်းကို ဖယ်ရှားရမည်။

၄.၈ အရင်းအမြစ်များပိုင်ဆိုင်မှု

ငှားရမ်းသူသည် စီမံကိန်းနေရာတွင် တွေ့ရသောရတနာများ သို့မဟုတ် အခြား (သတ္တု) အရင်းအမြစ်များနှင့်ပတ်သက်ပြီး ပိုင်ဆိုင်မှု သို့မဟုတ် အခြားအခွင့်အရေးကိုမှ မတောင်းဆိုပါ။

၅။ ကိုယ်စားပြုခြင်း၊ အာမခံခြင်း နှင့် သဘောတူညီချက်များ

၅.၁ ကိုယ်စားပြုခြင်းနှင့်အာမခံခြင်း

(က) အငှားချထားသူသည် စီမံကိန်းကုမ္ပဏီအား အောက်ပါတို့ကို ကိုယ်စားပြု အာမခံသည်၊-

(၁) ယင်းသည်ဤသဘောတူညီချက်ကိုချုပ်ဆိုရန်နှင့်ယင်းအရတာဝန်များကိုဆောင်ရွက်ရန်လုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်ခွင့်အာဏာရှိသည်။

(၂) ဤသဘောတူညီချက်ကိုတရားဝင်အခွင့်အာဏာဖြင့်ချုပ်ဆို၊ပေးပို့သည်။ယင်း၏စည်းမျဉ်းများနှင့်အညီ၊ ယင်း၏တရားဝင်၊ အကျုံးဝင်ပြီး၊ ချီနှောင်မှုများ နှင့်အာဏာသက်ရောက်မှုများပါဝင်သည်။

(၃) ဤသဘောတူညီချက်အရ အငှားချထားသူက ယင်း၏တာဝန်များကိုထမ်းဆောင်ခြင်း၊ စာချုပ်ချုပ်ဆိုခြင်းနှင့်ပေးပို့ခြင်းတို့သည်ကျင့်သုံးသောဥပဒေများအရနှင့်မည်သည့် ပြဋ္ဌာန်းချက်၊စီရင်ချက်၊အမိန့်၊ဒီကရီ သို့မဟုတ် စည်းမျဉ်း သို့မဟုတ် တရားရုံး ဆုံးဖြတ်ချက်၊ အစိုးရအဖွဲ့အစည်း သို့မဟုတ် ယင်းကိုသော်လည်းကောင်း သို့မဟုတ် ယင်း၏ပိုင်ဆိုင်မှုကိုသော်လည်းကောင်း ကျင့်သုံးသည့် သို့မဟုတ် ပတ်သက်သည့် လုပ်ကိုင်နိုင်စွမ်းရှိသည့်တရားစီရင်ခြင်း၏ အနည်းဘတခုံသမာဓိ လူကြီးမင်းအား ချိုးဖေါက်ခြင်း မဖြစ်စေရ။

(၄) စီမံကိန်းနေရာနှင့်ခွင့်ပြုချက်ရဧရိယာများတည်ရှိသောပစ္စည်းကိုတစ်ဦးပိုင်သော ပိုင်ရှင်ဖြစ်သည်။စီမံကိန်းကုမ္ပဏီသည် ဤသဘောတူညီချက်၏စည်းမျဉ်းပြဋ္ဌာန်းချက်များနှင့်

အညီ၊ စီမံကိန်းနေရာနှင့်လုပ်ကိုင်အသုံးချခွင့်ကိုအသုံးပြုရန်၊အကျိုးသက်ရောက်သည့် နေ့အဖြစ် အကျိုးသက်ရောက်သည့်လိုင်စင်ကို (x) ရမည်။ ပြီးဆုံးသည့်နေ့အဖြစ် စီမံကိန်းတွင် တရားဝင်ငှားရမ်းပိုင်သည့်နေရာ (y) ရမည်။

(၅) အကျိုးသက်ရောက်သည့်နေ့အဖြစ်၊ ငှားရမ်းသည့်ကာလတစ်လျောက် စီမံကိန်းနေရာနှင့် လုပ်ပိုင်ခွင့်ရနေရာများကို ရှင်းလင်းစွာပိုင်ဆိုင်သည့်ပိုင်ရှင် ဖြစ်မည်။ အာမခံအဖြစ် လက်ဝယ်ထားသူများ သို့မဟုတ် အခြားကြွေးမြီတာဝန်များအားလုံးမှကင်းရှင်းသည်။ စီမံကိန်းနေရာ နှင့်/သို့မဟုတ် လုပ်ပိုင်ခွင့်ရဧရိယာများအား ဆန့်ကျင်ဆုံးဖြတ်ချက်များရှိလျှင် ဤသဘောတူညီချက်အရ စီမံကိန်းကုမ္ပဏီအား ယင်း၏အခွင့်အရေးများ ကျင့်သုံးနိုင်စွမ်းကိုထိခိုက်မည့် နှင့်/သို့မဟုတ် ဤသဘောတူညီချက်အရ အငှားချထားသူကယင်း၏တာဝန်များကို ဆောင်ရွက်နိုင်စွမ်းကိုထိခိုက်စေမည့်၊ မည်သည့်အရေးယူဆောင်ရွက်ခြင်း၊ တရားစွဲဆိုခြင်း၊ စုံစမ်းစစ်ဆေးခြင်း၊ အနုညာတတရားစီရင်ခြင်း သို့မဟုတ် အခြားတရားစွဲဆိုခြင်းများမှ ဆိုင်းငံ့နေခြင်းများမရှိပါ။

(၆) ဤသဘောတူညီချက်အရ ယင်း၏တာဝန်များကိုလိုက်နာပြီး တရားဝင်ချုပ်ဆိုနိုင်ရန်လိုအပ်သော အစိုးရသဘောတူညီချက်များအားလုံးကိုရထားပြီးဖြစ်သည်။

(၇) အကျိုးသက်ရောက်သည့်နေ့အဖြစ်၊ စီမံကိန်းကုမ္ပဏီသည် တတိယအဖွဲ့ဝင်နေရောက်နေသူများအားလုံးမှကင်းရှင်းပြီး၊ အလွတ်ဖြစ်မည့်စီမံကိန်းနေရာအား တစ်ဦးတည်း အခွင့်အရေးရမည်။

(ခ) စီမံကိန်းကုမ္ပဏီသည် အငှားချထားသူအား အောက်ပါတို့ကို ကိုယ်စားပြု အာမခံသည်၊-

(၁) ကျင့်သုံးသောဥပဒေများအားလုံးကိုအရေးကြီးသည့်နေရာအားလုံးတွင် လိုက်နာသည်။ ယင်း၏လုပ်ငန်းများကိုဆောင်ရွက်ရန်၊ ယင်း၏မြေနေရာပစ္စည်းများကိုပိုင်ဆိုင်ရန်၊ နှင့် ဤသဘောတူညီချက်အရ ယင်း၏တာဝန်များကိုဆောင်ရွက်၊ ပေးပို့၊ ထမ်းဆောင်ရန်၊ လိုအပ်သောအခွင့်အာဏာများရရှိထားပြီးဖြစ်သည်။

(၂) စီမံကိန်းကုမ္ပဏီသို့ ဥပဒေအကြံပေးများကပေးသည့် မြန်မာဥပဒေတရားကြောင်းထင်မြင်ချက်တွင်ပါဝင်သောအရည်အချင်းများနှင့်ပတ်သက်ပြီး၊ ယင်းက ဤသဘော

တူညီချက်ကို အသိအမှတ်ပြုဆောင်ရွက်။ ပေးပို့ ထားပြီးဖြစ်သည်။ ယင်း၏စည်းမျဉ်း များနှင့်အညီ ယင်း၏တရားဝင်၊ အကျိုးဝင်ပြီး တာဝန်များကိုချိုးနှောင်၊ အာဏာသက်ရောက်မှု များပါဝင်သည်။

(၃) လိုအပ်သောသဘောတူညီချက်များကိုရယူ၊ ထိန်းသိမ်းခြင်းနှင့်စပ်လျဉ်းပြီး၊ ဤသဘောတူညီချက်အရ ယင်း၏တာဝန်များကို စီမံကိန်းကုမ္ပဏီက ဆောင်ရွက်ခြင်း ပေးပို့ခြင်းနှင့်ထမ်းဆောင်ခြင်းသည် ယင်း၏ပိုင်ဆိုင်မှုပစ္စည်းများ နှင့်ယင်း၏လုပ်ငန်းများနှင့်ပတ်သက်ပြီး သို့မဟုတ် ကျင့်သုံးသော လုပ်ကိုင်နိုင်စွမ်းရှိသည့်တရားစီရင်ရေး၏ မည်သည့်တရားရုံး၊ အစိုးရအဖွဲ့အစည်း သို့မဟုတ် ခုံသမာဓိလူကြီးကမဆို ချမှတ်သော ပြဌာန်းချက်၊ စီရင်ချက်၊ အမိန့်၊ ဒီကရီ သို့မဟုတ် စည်းမျဉ်းများကိုချိုးဖေါက်ခြင်း မဖြစ်ပါ။

၅.၂ **ငြိမ်းချမ်းစွာခံစားခြင်း**

အငှားချထားသူသည် သဘောတူအာမခံသည်။ စီမံကိန်းကုမ္ပဏီအနေဖြင့် ဤသဘောတူညီချက်အရဆက်လက်ဆောင်ရွက်နေပြီး၊ ပျက်ကွက်မှုမဖြစ်သမျှကာလပတ်လုံး၊ စီမံကိန်းကုမ္ပဏီသည် စီမံကိန်းနေရာကို ငြိမ်းချမ်း၊ တိတ်ဆိတ်စွာခံစားမှု၊ ပိုင်ဆိုင်မှုနှင့် အသုံးပြုခွင့်ရရှိမည်။ ချွင်းချက်အားဖြင့်အငှားချထားသူသည်စီမံကိန်းနေရာကိုစစ်ဆေးရန်နှင့် ဤသဘောတူညီချက်အတိုင်းလိုက်နာမှုကို စောင့်ကြည့်ရန်၊ စီမံကိန်းကုမ္ပဏီကို သင့်တော်သည့်အကြောင်းကြား နို့တစ်စာပေးပြီး စီမံကိန်းနေရာကို သာမန်အလုပ်လုပ်သောအချိန်များအတွင်း ဝင်ရောက်နိုင်သည်။ ချွင်းချက်အားဖြင့် ယင်းကဲ့သို့ဝင်ရောက်ခြင်းသည် အရေးပါသည့်အမြင်ဖြင့် စီမံကိန်းအားအနှောက်အယှက်မပေးရ သို့မဟုတ် မသက်ရောက်စေပါ။

၅.၃ **သက်သေခံလက်မှတ်ပေးခြင်း၊**

(၁) စီမံကိန်းနှင့်ပတ်သက်ပြီး ချေးငွေအထောက်အပံ့ပိတ်သည့်နေ့၊ နှင့်

(၂) စီမံကိန်းက စီးပွားဖြစ်ဆောင်ရွက်သည့်နေ့များအသီးသီး၊ အငှားချထားသူက စီမံကိန်းကုမ္ပဏီအားပျက်ကွက်ခြင်းမရှိကြောင်းနှင့်အငှားချထားသူနှင့်ပတ်သက်ပြီး ဆက်လက် ဆောင်ရွက်နေကြောင်း၊နှင့်အငှားချထားသူသည်သက်ဆိုင်ရာသက်သေခံလက်မှတ်ထုတ်ပေးသည့်

နေ့စွဲ သို့မဟုတ် ယင်းနေ့မတိုင်မီ ဆောင်ရွက်ရန်လိုအပ်သောတာဝန်များအားလုံးကို ဆောင်ရွက်ပြီးဖြစ်ကြောင်းကိုဖော်ပြလျက်၊ယင်းနေ့အသီးသီးအတိုင်းနေ့စွဲဖြင့်အငှားချထားသူ၏ခွင့်ပြုချက်ရကိုယ်စားလှယ်ကလက်မှတ်ရေးထိုးထားသည့်သက်သေခံလက်မှတ်ထုတ်ပေးရမည်။

၆။ ကာလ

၆.၁ ငှားရမ်းကာလ

အပိုဒ် ၂.၁ နှင့်အရ၊ အငှားချထားသူကစီမံကိန်းကုမ္ပဏီအားခွင့်ပြုသောငှားရမ်းကာလသည် စတင်သည့်ကာလတွက်နှင့် ပြီးဆုံးသည့်နေ့စွဲပါဝင်ပြီး၊ ကုန်ဆုံးသည့်ကာလများအတွက် ဖြစ်ရမည်။ သို့သော် ပြီးဆုံးသည့်နေ့မှ အနှစ် သုံးဆယ် (၃၀) (ကနဦးကာလ) ကျသောနေ့ မပါဝင်ပါ။ ငှားရမ်းကာလသည် ၁၅ (ဆယ့်ငါး) နှစ်အသီးသီးဖြစ်သော နောက်ထပ်ကာလ (တိုးမြှင့်ကာလအသီးသီး) နှစ်ခုအတွက် အလိုအလျောက် တိုးမြှင့်ရမည်။ စုစုပေါင်းငှားရမ်းကာလသည် အနှစ်ခြောက်ဆယ် (၆၀) ဖြစ်ရမည်။

၆.၂ သဘောတူညီချက်ကာလ

အပိုဒ် ၁၄.၁၁ အရ ဤသဘောတူညီချက်သည် ငှားရမ်းကာလပြီးသည့်အခါ အလိုအလျောက် ရပ်စဲရမည်။

၆.၃ ရပ်စဲခြင်း

ဤသဘောတူညီချက်ကို PPA ရပ်စဲခြင်း သို့မဟုတ် ပြီးဆုံးသည့်အခါ နောက်ထပ်အကြောင်းကြားစာပို့ရန်မလိုဘဲ၊ ရပ်စဲနိုင်သည်။

၇။ ငှားရမ်းခ

စီမံကိန်းကုမ္ပဏီသည်စီမံကိန်းနေရာနှင့်လုပ်ကိုင်အသုံးချခွင့်များအားလုံးအတွက် တစ်ဧကလျှင် တစ်နှစ်၊ အမေရိကန်ဒေါ်လာ၁၀၀ နှုန်းဖြင့် စီမံကိန်းအတွက်လိုအပ်သော ဧက ၈၅၀ အတွက် နှစ်စဉ်ငှားရမ်းခ စုစုပေါင်း တစ်နှစ် US$ ၈၅၀၀၀ကို ငှားရမ်းကာလအတွင်း နှစ်တိုင်း၏ဇန်နဝါရီလ (၃၁) ရက်နေ့တွင်ပေးရမည်။ ပထမငှားရမ်းကာလအတွက်ငှားရမ်းခကို အငှားကာလ၏ ပထမနှစ်ဒီဇင်ဘာ ၃၁ ရက် တွင်ပေးရမည်။

အငှားချထားသူသည် တစ်ကေလျှင် တစ်နှစ်၊ အမေရိကန်ဒေါ်လာ၁၀၀ နှုန်းဖြင့် နောက်ထပ် ၂၅၀၀ ကေကိုလုပ်ခွင့်ပေးမည်။

၈။ အခွန်အခများနှင့် ကောက်ခံခြင်းများ

အပိုဒ် ၇ တွင်ဖော်ပြထားသောငှားခပမာဏတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတွင် လိုအပ်သောခွင့်ပြုချက်များရခြင်းတွက် ပေးရမည့် ပုံမှန်အခများ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံအစိုးရနှင့်မွန္တလေးတိုင်းဒေသကြီးအစိုးရကကောက်ခံသည့်အခွန်များမှအပ၊ဤသဘောတူညီချက်ကာလအတွင်း စီမံကိန်းနေရာတွင် နေရာယူခြင်း သို့မဟုတ် လုပ်ပိုင်ခွင့်ရဧရိယာများကိုအသုံးချခြင်း နှင့်ပတ်သက်၍ ပစ္စည်းများ၊ မြေနှီစပယ်နှင့်အခြားအခွန်များ၊ ကောက်ခံငွေများ၊ ပေးရန်တာဝန်များနှင့်ဝန်ဆောင်ခများအားလုံးနှင့်ပတ်သက်ပြီး၊ စီမံကိန်းကုမ္ပဏီ၏တာဝန်များ ပါဝင်သည်။

၉။ ပတ်ဝန်းကျင်ဆိုင်ရာကိစ္စများ

(က) အောက်ပါ အပိုဒ် ၉ (ခ) (၂) အရ၊စီမံကိန်းကုမ္ပဏီသည် စီမံကိန်းနေရာ သို့မဟုတ် လုပ်ပိုင်ခွင့်ရဧရိယာများနှင့်ပတ်သက်ပြီး ငှားရမ်းကာလတစ်လျှောက် စီမံကိန်းကုမ္ပဏီ၏ဆောင်ရွက်ချက်များ၊ လုပ်ဆောင်မှုများ သို့မဟုတ် ပေါ့လျော့မှုများမှရလာသည့် အန္တရာယ်ရှိပစ္စည်းများရှိခြင်း၊ ကူးပြောင်းခြင်း၊ရွှေ့ရှားခြင်း၊လွှတ်ထုတ်ခြင်း၊ ပျော်ဝင်ခြင်း သို့မဟုတ် စွန့်ပစ်ခြင်းနှင့်ဆက်နွယ်သောဆုံးရှုံးမှု သို့မဟုတ် ပျက်စီးမှုများအတွက် အငှားချထားသူအား ကာကွယ်၊ နစ်နာကြေးပေးရမည် ၊ အန္တရာယ်မကျအောင်ကာကွယ်ရမည်။

(ခ) အငှားချထားသူသည် စီမံကိန်းကုမ္ပဏီနှင့် ငွေချေးပေးသူများနှင့်သူတို့အသီးသီး၏ တာဝန်ပေးထားသူများအား အောက်ပါတို့နှင့်ပတ်သက်ပြီးမည်သည့်ဆုံးရှုံးမှု သို့မဟုတ် ပျက်စီးမှုများကို မဆို ကာကွယ်၊ နစ်နာကြေးပေးပြီး အန္တရာယ်မရှိအောင်ထားရမည်။

(၁) အငှားချထားသူ သို့မဟုတ် အခြားသူများသိသည်ဖြစ်စေ၊ သို့မဟုတ် မသိသည်ဖြစ်စေ၊အကျိုးသက်ရောက်သောနေ့တွင် သို့မဟုတ် ယင်းနေ့မတိုင်မီ၊ စီမံကိန်းနေရာ သို့မဟုတ် လုပ်ပိုင်ခွင့်ရဧရိယာများမှာ သို့မဟုတ် အောက်ဘက်မှာတည်ရှိသည့်

အဖြစ်အပျက်များ သို့မဟုတ် အခြေအနေများမှပေါ်ထွက်လာသော စီမံကိန်းနေရာ၏ ပတ်ဝန်းကျင်ဆိုင်ရာအခြေအနေများနှင့်ပတ်သက်ပြီး၊ သို့မဟုတ်

(၂) အကျိုးသက်ရောက်သောနေ့တွင် သို့မဟုတ် ယင်းနေ့နောက်ပိုင်းတွင် အငှားချထားသူ၊ ယင်း၏ မိတ်ဖက်များ သို့မဟုတ် အစိုးရ သို့မဟုတ် အစိုးရမဟုတ်သော အဖွဲ့အစည်းများ၏ အန္တရာယ်ရှိပစ္စည်းများရှိခြင်း၊ ကူးပြောင်းခြင်း၊ရွေ့ရှားခြင်း၊လွှတ်ထုတ်ခြင်း၊ ပျော်ဝင်ခြင်း သို့မဟုတ် စွန့်ပစ်ခြင်း များမှပေါ်ထွက်သည့်၊

(င) အဖွဲ့ဝင်တိုင်းသည်စီမံကိန်း၏အစိတ်အပိုင်းတစ်ခုခု၏တည်ဆောက်ခြင်း၊မွမ်းမံခြင်း သို့မဟုတ် ဆောင်ရွက်ခြင်းများ သို့မဟုတ် စီမံကိန်းနေရာ သို့မဟုတ် လုပ်ပိုင်ခွင့်ရဧရိယာများအတွင်း ဖြစ်ပေါ်သော အခြားဆောင်ရွက်ချက်များ သို့မဟုတ် အခြေအနေများနှင့်ပတ်သက်ပြီး၊ ပေါ်ပေါက်သော သို့မဟုတ် မည်သည့်နည်းဖြင့်မဆို ပတ်ဝန်းကျင်ဆိုင်ရာဥပဒေများကို ချိုးဖေါက် သို့မဟုတ် ကျူးလွန်ခြင်း သို့မဟုတ် ချိုးဖေါက် သို့မဟုတ် ကျူးလွန်ကြောင်းစွပ်စွဲခြင်း များကို သိရှိသည့်အခါ၊ အခြားအဖွဲ့ဝင်အားချက်ခြင်းအကြောင်းကြားအသိပေးရမည်။

၁၀။ တာဝန်ပေးအပ်ခြင်းများ

၁၀.၁ တာဝန်ပေးအပ်ခြင်း

အပိုဒ်၁၀.၂အရ ဤသဘောတူညီချက်၏အဖွဲ့ဝင်တစ်ဦးက ဤသဘောတူညီချက်အရယင်းအဖွဲ့ဝင်၏လုပ်ပိုင်ခွင့်များ သို့မဟုတ် တာဝန်များကို တာဝန်ပေးခြင်း သို့မဟုတ် လွှဲပြောင်းခြင်းသည် အခြားအဖွဲ့ဝင်၏ကြိုတင်စာဖြင့်သဘောတူညီချက်မပါဘဲ အကျိုးသက်ရောက်မှုမရှိစေရ။ ယင်းကဲ့သို့သဘောတူညီချက်ကို အကြောင်းမလုံလောက်ဘဲ ထိန်းထားခြင်း သို့မဟုတ် ကြန့်ကြာခြင်းမဖြစ်စေရ။

၁၀.၂ ငွေချေးပေးသူများအားတာဝန်ပေးခြင်း

စီမံကိန်းအားငွေကြေးထောက်ပံ့ခြင်းအတွက်အပိုဒ် ၁၀.၁ ပါပြဌာန်းချက်ကမည်သို့ဆိုစေကာမူ၊ စီမံကိန်းကုမ္ပဏီသည်လွတ်လပ်စွာအငှားချထားသူ သို့မဟုတ် အခြားသူ၏သဘောတူညီချက်မလိုအပ်ဘဲ ဤသဘောတူညီချက်အရ သို့မဟုတ် ပတ်သက်သော ယင်း၏လုပ်ပိုင်ခွင့်များ နှင့်

အကျိုးစီးပွားများကို တာဝန်ပေးခြင်း သို့မဟုတ် ဆောင်ရွက်ခြင်းပြုလုပ်နိုင်သည်။ သို့မဟုတ် ငွေချေးပေးသူများအားအကျိုးပြုသည့် အာမခံအကျိုးစီးပွားကို ဖန်တီးနိုင်သည်။

၁၀.၃ ငွေချေးပေးသူများနှင့်တိုက်ရိုက်သဘောတူညီချက်

အငှားချထားသူသည် ငွေချေးပေးသူကတောင်းဆိုလျှင်၊ ငွေချေးပေးသူများနှင့် သဘောရိုးဖြင့် ညှိနှိုင်းပြီး၊ စီမံကိန်းနှင့်အလားတူသောစီမံကိန်းများအတွက်ထုံးစံဖြစ်သောပုံစံဖြင့် တိုက်ရိုက်စာချုပ်နိုင်သည်။ ချွင်းချက်အားဖြင့် ယင်းကဲ့သို့တိုက်ရိုက်စာချုပ်သည် တတိယအဖွဲ့ဝင်အား ဤသဘောတူညီချက်အရ စီမံကိန်းကုမ္ပဏီ၏အခွင့်အရေးနှင့် အရေးပါခြားနားသည့်အခွင့်အရေးများကို မပေးရ။

၁၀.၄ နောက်တိုးအာမခံခြင်းများ

ငွေချေးပေးသူများကတောင်းဆိုနိုင်သည့်အတိုင်း ဤသဘောတူညီချက်အရ ယင်းပုဂ္ဂိုလ်များ၌ အခွင့်အရေးများ နှင့် အပိုဒ် ၁၀ ဖြင့် သုံးသပ်ထားသည့်အတိုင်း ဖန်တီးထားသော အာမခံနှင့် စပ်လျဉ်း၍ အငှားချထားသူက သိရှိပြီး စီမံကိန်းကုမ္ပဏီ၏တောင်းဆိုချက်အရ ယင်းကဲ့သို့ နောက်ထပ်သိရှိချက်များအားလုံးကို ငွေချေးပေးသူများ သို့မဟုတ် သူတို့၏တာဝန်ပေးသူများနှင့် ချုပ်ဆို၊ ပေးအပ်ရမည်။ အငှားချထားသူသည် ငွေချေးပေးသူများက သင့်တော်သည့် တောင်းဆိုသည့်သတင်းအချက်အလက်များကိုပေးရန် (ငွေချေးပေးသူများက သင့်တော်သည့်အတိုင်းတောင်းဆိုသည့်အစိုးရအဖွဲ့အစည်းများထံမှသတင်းအချက်အလက်များကိုရယူရာတွင် အကူအညီပေးရန်)၊ နှင့် စီမံကိန်းအတွက် ငွေကြေးထောက်ပံ့ခြင်းနှင့်ပတ်သက်ပြီး ငွေချေးပေးသူများနှင့် တွေ့ဆုံ၊ ညှိနှိုင်းဆောင်ရွက်ရန်၊ သင့်တော်သည့်အတိုင်းကြိုးပမ်းရမည်။

၁၁။ အနညာတစီရင်ဆုံးဖြတ်ခြင်း

(က) ဤသဘောတူညီချက်၏တည်ရှိမှု၊ တရားဝင်မှု သို့မဟုတ် ရပ်စဲမှုနှင့်ပတ်သက်သောပြဿနာ အပါအဝင်၊ ဤသဘောတူညီချက်မှ သို့မဟုတ် ယင်းနှင့်ပတ်သက်ပြီး ပေါ်ထွက်လာသော အငြင်းပွားမှုရှိသည့်အခါ၊ (အငြင်းပွားမှု)အဖွဲ့ဝင်များသည်အငြင်းပွားမှုကိုဖြေရှင်းချက် အတွက် သဘောရိုးဖြင့် ညှိနှိုင်းရန်အားထုတ်ရမည်။ ယင်းသို့ ဆောင်ရွက်ခြင်းမှာ မဖြစ်နိုင် သို့မဟုတ်

လက်တွေ့မကျမဖြစ်လျှင်၊အဖွဲ့ဝင်များသည်အငြင်းပွားမှု၏နောက်ဆုံးဖြေရှင်းချက်ကိုဆိုင်းငံ့ပြီး၊ ဤသဘောတူညီချက်အရ ဆက်လက်ဆောင်ရွက်ရမည်။

(ခ) အဖွဲ့ဝင်တစ်ဦးကအငြင်းပွားမှုကိုအသိပေးထုတ်ပြန်ပြီးနောက်ရက်ပေါင်း ၃၀ အတွင်း၊ အဖွဲ့ဝင်များသည်အငြင်းပွားမှုကိုငြိမ်းချမ်းစွာမဖြေရှင်းနိုင်လျှင်၊အငြင်းပွားမှုကိုနောက်ဆုံးလက်ရှိအာဏာသက်ဝင်နေသည့် 2010 အနုညာတဆုံးဖြတ်ခြင်း၊ နိုင်ငံတကာကုန်သွယ်မှု ဥပဒေ အပေါ်ကုလသမဂ္ဂကော်မရှင် (UNCITRAL)နှင့်အညီ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံရှိ အနုညာတစီရင်ဆုံးဖြတ်ခြင်းဖြင့် ရည်ညွှန်းဖြေရှင်းရမည်။ စည်းမျဉ်းများကို အပိုဒ် ၁၁ တွင်ရည်ညွှန်း ပေးထားပြီးဟုမှတ်ယူသည်။ အနုညာတခုံရုံးတွင် ခုံသမာဓိလူကြီး သုံး (၃) ဦးပါရမည်။ အနုညာတစီရင်ဆုံးဖြတ်သည့်ဘာသာစကားသည် အင်္ဂလိပ်ဘာသာစကားဖြစ်ရမည်။

(ဂ) ပေးအပ်သောအနုညာတဆုံးဖြတ်ချက်သည်အဖွဲ့ဝင်များအပေါ် ချီနှောင်ပြီး၊နောက်ဆုံးအတည်ဖြစ်ရမည်။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံရှိတရားရုံးများအပါအဝင် ကန့်သတ်မထားဘဲ လုပ်ပိုင် ခွင့်ရှိသည့်စီရင်ဆုံးဖြတ်သောမည်သည့်တရားရုံးများတွင်မဆို အာဏာသက်ဝင်ရမည်။

(ဃ) အငှားချထားသူသည် ပြန်လည်ရုတ်သိမ်းမရဘဲ၊စွန့်လွှတ်ပြီး၊ မည်သည့်စီရင်ဆုံးဖြတ်သည့်ဥပဒေများအရ ယခု သို့မဟုတ် ယခုမှစပြီး အကျုံးဝင်လာမည့်၊ ယင်း သို့မဟုတ် ယင်း၏ပစ္စည်းအား ဆောင်ရွက်ခြင်း၊ အာဏာသက်ရောက်စေခြင်း သို့မဟုတ် ဂါရမ်းစွဲကပ်သည့်ပုံစံအားလုံးနှင့်တစ်ခုခုမှ တရားစွဲဆိုခြင်း နှင့်/သို့မဟုတ် ကင်းလွတ်ခွင့် မတောင်းဆိုရန်သဘောတူသည်။ အငှားချထားသူသည် ယင်းသို့စွန့်လွှတ်ခြင်းသည် ယင်းဥပဒေများအရ ခွင့်ပြုသောအတိုင်းအတာအပြည့်သက်ရောက်ရမည်ဖြစ်ကြောင်းကြေညာသည်။

(င) သံသယရှောင်ရှားရန်အတွက် အငှားချထားသူသည် ဤအပိုဒ် ၁၁ ရည်ရွယ်ချက်အတွက် စီမံကိန်းကုမ္ပဏီကစွဲဆိုသည့်မည်သည့်တရားရုံး၏ဆုံးဖြတ်စီရင်ခြင်းကိုမဆို ပြန်လည်ရုတ်သိမ်းမရဘဲတင်သွင်းသည်။မသင့်လျော်သောအစည်းအဝေးအခြေခံဖြင့်သို့မဟုတ်တစ်နည်းအားဖြင့် ကန့်ကွက်မှုမပြုလုပ်ရန် တာဝန်ယူသည်။

(စ) အနုညာတခုံရုံးကပေးသည့်ဆုံးဖြတ်ချက်ကို အသိအမှတ်ပြု သို့မဟုတ် အာဏာသက်ရောက်စေရန် စီမံကိန်းကုမ္ပဏီက လျှောက်ထားပြီး ရက်ပေါင်း ခြောက်ဆယ် (၆၀) အတွင်း မြန်မာ

တရားရုံးများက အသိအမှတ်မပြု သို့မဟုတ် အာဏာမသက်ဝင်စေလျှင်၊ စီမံကိန်းကုမ္ပဏီသည် စီမံကိန်းကုမ္ပဏီက ဆုံးဖြတ်သည့်ငွေကို အမြတ်ဝေစုများ၊ အစွန်းများ၊ ငှားရမ်းခများ ၊ ကောက်ခံငွေများ သို့မဟုတ် တနည်းအားဖြင့် ကန့်သတ်မထားဘဲ ပါဝင်သည့်၊ အငှားချထားသူအား ပေးရမည့် အခြားငွေမှ နုတ်ယူနိုင်သည်။

၁၂။ ပျက်ကွက်မှုကိစ္စရပ်များ

၁၂.၁ အဖွဲ့ဝင်တစ်ဦးဦးက အောက်ပါ အရေးကြီးသောတာဝန်များကို ဆောင်ရွက်ရန် ပျက်ကွက်လျှင် ပျက်ကွက်မှုကိစ္စရပ်များ ဖြစ်ပေါ်သည်ဟုမှတ်ယူရမည်။

(၁) အခြားအဖွဲ့ဝင်က ယင်းကဲ့သို့ ပျက်ကွက် သို့မဟုတ် ချိုးဖောက်ကြောင်းစာဖြင့် အကြောင်းကြားစာလက်ခံရပြီးနောက် ရက်ပေါင်း ကိုးဆယ် (၉၀) အတွင်း ယင်းကဲ့သို့ ပျက်ကွက် သို့မဟုတ် ချိုးဖောက်မှုကို မကုစားခြင်း၊ သို့မဟုတ်

(၂) သင့်တော်သည့်အားထုတ်မှုသုံးပြီး ယင်းကဲ့သို့အကြောင်းကြာစာလက်ခံပြီးနောက် ရက်ပေါင်းကိုးဆယ် (၉၀) အတွင်း ယင်းကဲ့သို့ ပျက်ကွက် သို့မဟုတ် ချိုးဖောက်မှုကို မကုစားနိုင်လျှင်၊ ချိုးဖောက်သည့်အဖွဲ့ဝင်သည် ယင်း ရက်ပေါင်းကိုးဆယ် (၉၀) အတွင်းချိုးဖောက်မှုကုစားခြင်းကို မစတင်နိုင်ဘဲ၊ ယင်းကဲ့သို့ ပျက်ကွက်မှုသို့မဟုတ် အခြားချိုးဖောက်မှုကိုကုစားရန် ဆက်လက် သင့်တော်သောအားထုတ်မှုပြုနေသည်။

၁၂.၂ ပျက်ကွက်မှုအတွက်ကုစားခြင်းများ

အဖွဲ့ဝင်တစ်ဦးဦးကပျက်ကွက်သည့်ကိစ္စရပ်ဖြစ်ပေါ်သည့်အခါ၊ယင်းပျက်ကွက်သည့်ကိစ္စဆက်လက်ဖြစ်ပေါ်နေစဉ်၊ အခြားအဖွဲ့ဝင်သည် အောက်ပါတို့အပါအဝင် အပိုဒ် ၁၃.၁ တွင်ပါသော ပျက်စီးမှုအပေါ်ကန့်သတ်ချက်များအရကိစ္စရပ်အသီးသီးတွင်(ဤသဘောတူညီချက်ကိုရပ်စဲခြင်းမှတစ်ပါး) ကျင့်သုံးသောဥပဒေများအရ ရနိုင်သော အခွင့်အရေးများနှင့်ကုစားချက်များအားလုံးကို ရယူနိုင်သည်။

(၁) အမှန်တကယ်ပျက်စီးမှုကိုရယူသည့်အခွင့်အရေး သို့မဟုတ်

(၂) ပျက်ကွက်သည့်အဖွဲ့ဝင်က ပျက်ကွက်သည့်ကိစ္စရပ် သို့မဟုတ် ပျက်ကွက်သည့်ကိစ္စရပ်ဖြစ်နိုင်သည့် အလားအလာ သို့မဟုတ် ခြိမ်းခြောက်မှုကို ထိန်းချုပ်ပြီး၊ လမ်းညွှန်ပေးသည့်အခွင့်အရေး။

၁၃။ အဖွဲ့ဝင်များ၏ပေးရန်တာဝန်များ

၁၃.၁ ပေးရန်တာဝန်ကိုကန့်သတ်ခြင်း

(က) အပိုဒ် ၁၃.၂ အရလိုအပ်သည့်မှအပ၊သွယ်ဝိုက်နောက်ဆက်တွဲဖြစ်ပြီး၊ ဖြစ်ပျက်သည့်၊ ပြင်းထန်သော သို့မဟုတ် စံပြဖြစ်သည့်ပျက်စီးမှုများအတွက်စာချုပ်၊တရားမနစ်နာမှု၊အာမခံခြင်း၊ တင်းကျပ်သည့်ပေးရန်တာဝန် သို့မဟုတ် အခြားတရားဥပဒေသီအိုရီဖြင့် မည်သည့်အဖွဲ့ဝင်ကမှ အခြားအဖွဲ့ဝင်သို့ ပေးရန်တာဝန်မရှိစေရ။

(ခ) ဤသဘောတူညီချက်အရ သို့မဟုတ် ချိုးဖေါက်မှုမှတစ်ပါး၊မည်သည့်အဖွဲ့ဝင်ကမှ အခြားအဖွဲ့ဝင်သို့ ပေးရန်တာဝန်မရှိစေရ။ သို့သော်လည်းချွင်းချက်အားဖြင့်ဤပြဋ္ဌာန်းချက်သည် အဖွဲ့ဝင်တစ်ဦးက အခြားသူအား ဤသဘောတူညီချက် သို့မဟုတ် ဤသဘောတူညီချက်နှင့် မသက်ဆိုင်သော သို့မဟုတ် ကျင့်သုံးသောဥပဒေများအရသတ်မှတ်ထားသည့်ဆောင်ရွက်ချက်နှင့် မပတ်သက်သောမည်သည့်အခွင့်အရေးကိုမျှ စွန့်လွှတ်ရန် မရည်ရွယ်ပါ။

၁၃.၂ နစ်နာကြေးပေးခြင်း

(က) ဤသဘောတူညီချက်ရှိတစ်နေရာတွင် အထူးပြဋ္ဌာန်းထားသည့်အတိုင်းမှတစ်ပါး၊ အငှားချထားသူသည်စီမံကိန်းကုမ္ပဏီ၊ယင်းကခန့်ထားသည့်ဆောက်လုပ်ရေးကန်ထရိုက်တာများနှင့်ငွေချေးပေးသူများအားသူတို့ကိုယ်တိုင်နှင့် သူတို့၏အရာရှိများ၊ ဒါရိုက်တာများနှင့်ဝန်ထမ်းများ အသီးသီးအတွက် ယုံကြည်စွာအပ်နှံခံရသူအနေဖြင့်း နစ်နာကြေးပေးပြီးကာကွယ်ရမည်။ ယင်းတို့အသီးသီးအား ယခုနေ့နောက်ပိုင်း အမြဲတမ်းဤသဘောတူညီချက်နှင့်ဆက်စပ်ပြီးအငှားချထားသူ၏ပေါ့လျော့မှု၊ သို့မဟုတ် ရည်ရွယ်ဆောင်ရွက်ချက် သို့မဟုတ် ထိန်ချန်မှုကြောင့် ဖြစ်ပေါ်၊ ခံစား၊ သို့မဟုတ် ပေးရန် လိုအပ်သည့် တိုက်ရိုက်ဖြစ်စေ သွယ်ဝိုက်၍ဖြစ်စေကျရောက်သည့် တကိုယ်ရေထိခိုက် ဒဏ် ရာရခြင်း

